# تَيْسِيرُ

# أُصُولِ الْفِقْهِ

## စတင်လှမ်းချီ
## အုဆူးလုလ်ဖိကဟ်ဆီ




ကြီးကြပ်သူ

မွတ်ဖ်သီ မိုဟမ္မဒ် အာစွင်းမ်

(နဒ်ဝီ၊ မဇ္ဇာဟေရီ၊ အဇွလ်ဟာစနီ)

ပြုစုသူ

မော်လာနာ မိုဟမ္မဒ် အင်မ်ရာန်

(အလ်ကောင်ဆရီ)

# မာတိကာ





## ရင်တွင်းစကား

✍ **အလ်ဟားဂျ် မောင်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်** ( နဒ်ဝီ ၊ အဇုဟ်ဟာစနီ ၊ မဇ္ဇာဟိရီ )

الحمد لله على جميع النعم ، والصلاة والسلام على سيدنا محمد ماجرى المداد بالقلم .

علم أصول الفقه **(ဖေကဟ် သိပ္ပံ ပညာရပ်)**

အစ္စလာမ့်အမိန့်တော်များကို ပြဋ္ဌာန်းရာတွင် အခြေခံမူ (၄) ရပ်ရှိပါသည်။

❶ ကျမ်းမြတ်ကုရ်အာန် ❷ ဟဒီးဆ်တော်မြတ်

❸ အိဂ်ျမာအ် ❹ ကိယာ်းစ်

အထက်ပါအခြေခံမူ (၄) ရပ်အနက် ကျမ်းမြတ်ကုရ်အာန်နှင့် ဟဒီးဆ်တော်မြတ်တို့မှာ အမိန့်တော်များ ထုတ်နှုတ်ရာတွင် မူရင်းစံများဖြစ်ပြီး၊ အိဂ်ျမာအ်နှင့် ကိယာ်းစ်တို့မှာ ကျမ်းမြတ်ကုရ်အာန်နှင့်ဟဒီးဆ်တော်များကို အခြေပြုထားသည့် ဆင့်ပွား စံများဖြစ်သည်။

## ခေတ်အဆက်ဆက် အမိန့်တော်များထုတ်နှုတ်သည့် ပုံစံ

### ကိုယ်တော်မြတ် ﷺ ခေတ်

ကျမ်းမြတ်ကုရ်အာန်သည် အရဗီဘာသာစကားဖြင့် ကျရောက်ခဲ့သည်။ ကျမ်းမြတ်ကုရ်အာန်အတွင်းရှိ ကျင့်ရန်၊ ကြဉ်ရန်များကို ကိုယ်တော်မြတ် ﷺ က ဆွဟာဗာတို့ကို တိုက်ရိုက်ရှင်းလင်းတင်ပြခဲ့သည်။

ကိုယ်တော်မြတ် ﷺ ခေတ်အခါသမယရှိ ဖမ္မသတ်ပေးပိုင်ခွင့်ရှိသော ဆွဟာဗာသာ၀ကကြီးများသည်လည်း ကျမ်းမြတ်ကုရ်အာန်လာအမိန့်တော်များကို

လူတို့ အားရှင်းလင်းတင်ပြပေးခဲ့သည်။ ကျမ်းမြတ်ကုရ်အာန်တွင် မတွေ့ရှိပါက ကိုယ်တော်မြတ် ﷺ အား တိုက်ရိုက်မေးမြန်းကာ အမိန့်တော်များ ထုတ်ပြန်ပေး ခဲ့ပါသည်။

## ဆွဟာဗာကြီးများ ﵃ ခေတ်

ဤခေတ်တွင် အမိန့်တော်တစ်ခုထုတ်ပြန်ရန် လိုအပ်လာပါက ဆွဟာဗာ ကြီးများ သည် ဦးစွာပထမ ကျမ်းမြတ်ကုရ်အာန်တွင် ရှာဖွေကြသည်။ ထို့နောက် ဟဒီးဆ်တော်များ ကို မှီငြမ်းကြသည်။ ဟဒီးဆ်တော်များတွင် မတွေ့ရှိကြပါက တူဆင်သော အမိန့်တော်များ ရည်ရွယ်ချက်များနှင့်အကျိုးတရား၊ အကြောင်း တရားများကို စံပြုကာ အချင်းချင်း ဂဃနဏတိုင်ပင်ဆွေးနွေးကာ တညီတညွတ် တည်းဆုံးအမိန့်တစ်ခုကို ထုတ်ပြန်ခဲ့ကြသည် ။ ဤအချက်ကို ဟဇရသ်မိုအားဇ် ﵁ သခင်ကြီး၏ ယီမင် နိုင်ငံသို့ မသွားမီ ဖြေကြားခဲ့သော အဖြေ၊ ဟဇရသ် အုမရ် ﵁ သခင်ကြီးက အဗူမူစာ အရှ်အရီ ﵁ သခင်ကို တရားသူကြီးခန့်အပ်ချိန် မှာကြား ခဲ့သော မှာတမ်းများက သက်သေ ထူနေပါသည်။

## ဆွဟာဗာတို့၏ခေတ်နောက် علم أصول الفقه (ဖေကဟ် သိပ္ပံ ပညာရပ်)

ဆွဟာဗာကြီးတို့၏ ပထမရာစုနှစ်ပြီးဆုံးသည့်အခါ အရဗ်နှင့် အရဗ်မဟုတ် သူများရောနှောလာခဲ့သည်။ ထိုစဉ်အခါက ကျမ်းမြတ်ကုရ်အာန်၊ ဟဒီးဆ်တော်များ နှင့်အခြားသောအစ္စလာမ့်စာပေများ၊အထူးသဖြင့်အရဗီဘာသာစကားကိုစနစ်တကျ ထိန်းသိမ်းရန် လိုအပ်လာခဲ့ပါသည်။ ထိုလိုအပ်ချက်မှတဆင့် ဘာသာရပ်ပေါင်းများ စွာကို အခြေခံစ၍ ပြုစုဖြစ်ခဲ့သည်။






ထိုမှတဆင့်အစ္စလာမ့်အခြေခံမူများ၊ အမိန့်ပညတ်ချက်များ၊ ဥပဒေများ ထုတ်နှုတ် ခြင်းအတတ်ပညာ ဖြစ်သော علم أصول الفقه (ဖေကဟ် သိပ္ပံ ပညာရပ်)ကို ပါ ပြုစုဖြစ်ခဲ့ သည်။

## علم أصول الفقه **(ဖေကဟ် သိပ္ပံ ပညာရပ်) ပြုစုခြင်းသမိုင်း**

သုတေသီ အဗုလ်ဝဖာ အဖ်ဂါနီ ﷺ ၏ အဆိုအရ ပထမဆုံး علم أصول الفقه (ဖေကဟ်သိပ္ပံပညာရပ်) ၏ အခြေခံမူများကို စတင်မျိုးစေ့ချခဲ့သူမှာ အေမာမ် အဗူ ဟနီဖွာ ﷺ သခင်ဖြစ်သည်။ သခင်ကြီးသည် မိမိ၏ كتاب الرأي ကျမ်းတွင် အမိန့် တော်များ ထုတ်နှုတ်ခြင်းဆိုင်ရာ အခြေခံမူများကို တင်ပြခဲ့သည်။

ထို့နောက် သခင်ကြီး၏တပည့်တော်နှစ်ပါးဖြစ်သော အေမာမ် အဗူယူစွတ်ဖ် ﷺ ၊ အေမာမ်မုဟမ္မဒ် ﷺ သခင်တို့က မိမိတို့၏ကျမ်းများတွင် အချို့သော အခြေခံမူ များကို တင်ပြခဲ့သည်။

ထို့နောက် အေမာမ်ရှာဖေ့အီ ﷺ သခင်ကြီးက မိမိ၏ الرسالة ကျမ်းတွင် **(ဖေကဟ်သိပ္ပံပညာရပ်)**ဆိုင်ရာ အခြေခံမူများကိုစုံလင်စွာတင်ပြခဲ့သည်။ ထို့ကြောင့် အေမာမ်ရှာဖေ့အီ ﷺ သခင်ကြီးကို ဤပညာရပ်၏ ကနဦးမျိုးစေ့ချခဲ့သူ ဟု ပညာရှင် အများစုက မှတ်တမ်းတင်ခဲ့သည်။

အေမာမ်ရှာဖေ့အီ ﷺ သခင်နောက်တွင် အေမာမ် အဗူမန်ဆူးရ် မာသူရီဒီ ﷺ က مآخذ الشرائع ကျမ်းကို ပြုစုခဲ့သည်။

ထို့နောက်တွင် အေမာမ် အဗူဘက်ရ် အလ်ဂျတ်စ်ဆွားစ် ရာဇီ ﷺ သခင်က أصول الجصاص အမည်ရှိ ကျမ်းကို ပြုစုခဲ့သည်။ ဤကျမ်းနောက်ပိုင်း ဤကဏ္ဍတွင် ကျမ်းပေါင်းများစွာကို ပညာရှင်များက ပြုစုခဲ့သည်။






**မြန်မာဘာသာဖြင့်** علم أصول الفقه **(ဖေကဟ် သိပ္ပံ ပညာရပ်)**

မြန်မာ့မြေမှ ပညာရှင်များကလည်း မိမိတို့ပတ်ဝန်းကျင်၏တောင်းဆိုချက်များ၊ လိုအပ်ချက်များနှင့်အညီ ဤဘာသာရပ်ဆိုင်ရာ အခန်းကဏ္ဍအချို့ကို ပြုစုပေးခဲ့ကြသည်။

ကျွန်ုပ်၏မပြည့်စုံသော လေ့လာချက်၊ မြန်မာ့စာပေသမိုင်းပညာရှင်အချို့၏ ရေးသားချက်များအရ ကျွန်ုပ်တို့မြန်မာနိုင်ငံတွင် علم أصول الفقه (ဖေကဟ် သိပ္ပံ ပညာရပ်)၏ ကဏ္ဍအချို့ကိုသော်လည်းကောင်း၊ အပိုင်းတစ်ပိုင်းကိုသော်လည်းကောင်း မြန်မာဘာသာဖြင့် ပြုစုခဲ့ခြင်းမျိုးရှိခဲ့ပါသည်။

အစ္စလာမ့်အသိပညာ ပြန့်ပွားရေးကို တစိုက်မတ်မတ် ကြိုးပမ်းခဲ့သော ကနဦးပိုင်းပညာရှင်ကြီးဖြစ်သည့် ဆရာကြီးဦးနု(ခ)ဆရာကာစင်မ်(၁၈၂၂) ကွယ်လွန်သည် ကျမ်းပေါင်း(၆၀)ကျော်ရေးသားခဲ့သည်။ ထိုကျမ်းများအနက် (၁၈၁၄)ခုနှစ်တွင် ရေးသားပြုစုခဲ့သည့် “စေ့ရာဂျေ့ရှရ်အီ (၃၅)ခန်းကျမ်း၊ ဆရာကြီးအသက်(၃၂)အရွယ်တွင် ရေးသားခဲ့သည့် (၃)ခန်းကျမ်း၊ အသက်(၅၀)တွင် ရေးသားခဲ့သည့် ခြောက်ခန်းကျမ်း၊ (၂၉)နှစ်တွင် ရေးသားခဲ့သည့် ဆယ့်တစ်ခန်းကျမ်းတို့တွင် ဖေကဟ် ရှုထောင့်မှ မတ်စ်အလဟ်ပေါင်းများစွာကို ဖော်ပြထားသည်။

ဗဒုံမင်းလက်ထက် (၁၁၄၃-၁၁၈၁)တွင် အစ္စလာမ်ဘာသာဝင်များဘက်မှ တင်သွင်းသည့် သံတော်ဦးတင်လွှာကျမ်း၏ စတုတ္ထအပိုဒ်တွင် မိုဟမ္မဒ်ကို ဆက်ခံဟောပြောသူများ၊ အေမာမ်ကြီး(၄)ပါး၊ ကျမ်းပြုနှစ် စသည့်ကဏ္ဍများတွင် علم أصول الفقه (ဖေကဟ်သိပ္ပံပညာရပ်)ဆိုင်ရာ အချို့သော သိမှတ်ဖွယ်ရာများ ပါဝင်နေခဲ့သည်။

## ရင်တွင်းစကား

**✍ အလ်ဟားဂ်ျ မောင်လာနာ မုဖ်သီ မုဟမ္မဒ်**
**အာစွင်းမ်** ( နဒ်ဝီ၊ အဇ်ဟရီ၊ မဇာဟိရီ )

သုခမိန်ကြီး နူရွ်ဒင်န်(ခ) ဟာဂျီဦးလူ(ဦးကာလူ) (၁၉၄၂)ကွယ်လွန်သည် (၁၉၃၉)ခုနှစ်တွင် ဖရာယစ်(ခေါ်) အမွေခမ္မသတ်ဖြတ်ထုံးကျမ်းကို ပြန်ဆို ရေးသား ပြုစုခဲ့သည်။ ထို့နောက် ကုရ်အာန်ဘာသာပြန် စတုတ္ထစာစောင်နှင့်တွဲ၍ ချုပ်လုပ် ထုတ်ဝေသည့် ကေတာဘွလ်ဖရာယစ် ကျမ်းတွင်လည်း علم أصول الفقه (ဖေကဟ် သိပ္ပံပညာရပ်)၏ အပိုင်းကဏ္ဍတစ်ခုဖြစ်သော အမွေခမ္မသတ်ဖြေကြားခြင်း မှုများ အကြောင်းပါဝင်သည်။

အခြားသောပညာရှင်ကြီးများက မိမိတို့ ဘာသာပြန်ကျမ်း အသီးသီး၏ နိဒါန်းတွင် علم أصول الفقه **(ဖေကဟ် သိပ္ပံ ပညာရပ်)** မှ အရေးကြီးလိုအပ်သည့် အခန်းကဏ္ဍများကို ဖော်ပြခဲ့ခြင်းများရှိသော်လည်း ယခုကျွန်ုပ်တို့၏ချစ်မိတ်ဆွေ မော်လာနာ အင်မ်ရားန်ဆပ် တင်ပြမည့် علم أصول الفقه **(ဖေကဟ် သိပ္ပံပညာရပ်)** ဆိုင်ရာ ကျမ်းငယ်ကဲ့သို့ သီးသန့် ကျမ်းတစ်ခုအဖြစ် ပြုစုထားခြင်းမရှိပါ။

والله أعلم بالصواب

အထူးသဖြင့် ဤပညာရပ်ကို မြန်မာဘာသာဖြင့် ကျောင်းသင်ရိုးပြဋ္ဌာန်း စာအုပ်အဖြစ် ရေးသားထားသည့်ကျမ်းမျိုးကိုလည်း မတွေ့ဖူးပါ။ အချို့သော ပညာရှင်များ ကြိုးပမ်းနေပြီဟူသော သတင်းကိုတော့ ကြားသိနေပါသည်။

ဤသို့မရှိရခြင်းအတွက် အကြောင်း(၂)ချက်ကို တွေးမိပါသည်။

- أصول ဘာသာရပ်များကို အတန်းကြီးမှ သင်ယူရခြင်း။
- ဤကဏ္ဍတွင်အရဗီအူရဒူဘာသာဖြင့်ကျမ်းအမြောက်အများရှိနေ ခြင်း။

ရင်တွင်းစကား

✍ **အလ်ဟားဂ်ျ မောင်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်** ( နဒ်ဝီ၊ အဗုလ်ဟစနီ၊ မဇ္ဇာဟိရီ )

**မြန်မာဘာသာဖြင့်** علم أصول الفقه **(ဖေကဟ် သိပ္ပံ ပညာရပ်)**

အရဗီဘာသာ၊ အူရဒူဘာသာဖြင့် علم أصول الفقه **(ဖေကဟ် သိပ္ပံ ပညာရပ်)** ဆိုင်ရာကျမ်းများ အများအပြားရှိနေသော်လည်း မြန်မာနိုင်ငံသား မျိုးဆက်သစ်လူငယ်များအတွက် ဘာသာရပ်တိုင်း၏ ကနဦးအခြေခံစာအုပ်များကို မိခင်ဘာသာစကားဖြင့်သာ သင်ပေး/ သင်ယူလုပ်ခြင်းမှာ ထိရောက်မှုရှိပါသည်။

သို့မှသာ ဝေါဟာရအသုံးအနှုန်းများကို မြန်မာဆန်ဆန်နားလည် သဘောပေါက်နိုင် ပြီး မြန်မာဆန်ဆန်ဘာသာ ပြန်ဆိုနိုင်မည်ဖြစ်သည်။

## မြန်မာ့မြေမှ မွတ်စ်လင်မ်အွမ္မသ်ထုအတွက် အိမ်မက်တစ်ခု အကောင်အထည်ပေါ်လာခြင်း

မြန်မာ့မြေရှိ ရင်သွေးရတနာများအတွက် ခေတ်စနစ်နှင့်အညီ၊ အထက်ပါကွက်လပ်များကို အတတ်နိုင်ဆုံးဖြည့်စွက်ပေးမည့် စာအုပ်တစ်အုပ်ကို စာဖတ်ပရိသတ်ထံ တင်ဆက်ရင်း အရှင်မြတ်ကို အတိုင်းမသိ ကျေးဇူးတင်မိပါသည်။ ထိုစာအုပ်ကို မျိုးဆက်သစ် ကလောင်ရှင် မော်လာနာ မုဟမ္မဒ် အင်မ်ရားန် (အလ်ကောင်ဆရီ)ကပြုစုထားပါသည်။ မော်လာနာအိမ်ရားန်သည် ကျောင်းသားဘဝကတည်းက စာပေအရေးအသားကို ဝါသနာထုံသူတစ်ဦးဖြစ်သည်။ ထိုစဉ်အခါကတည်းက အရေးနယ်ပယ်တွင် အရည်အချင်း တစ်ခုတည်ဆောက်ထားပြီး ဖြစ်သည်။ ကျောင်းပြီးသည့်နောက်တွင်လည်း စာပေလေ့လာခြင်းများကို တိုးမြှင့်လုပ်ဆောင်ကာ ကြိုးစားနေပါသည်။ မိမိပြောဆိုလိုသည့်အကြောင်းအရာများကို သမ္မာရင့်ဝါရင့်ဆရာများကဲ့သို့ တင်ပြနိုင်ခြင်းမှာ မော်လာနာဆပ်၏ ထူးခြားချက်ဟု မှတ်ချက်ပြုလိုပါသည်။




## ရင်တွင်းစကား

**✍ အလ်ဟားဂျ် မောင်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်** ( နဒ်ဝီ၊ အဗုလ်ဟစနီ၊ မဇ္ဇာဟိရီ )

ဆရာသည် ဤကျမ်းငယ်ကို မန္တလေးမြို့ တောင်ဆင်ကျုံးဗလီဝင်းအတွင်း ဖွင့်လှစ်ထားသည့် ABUBAKR EDUCATION CENTER တွင် (ခေတ်ပညာတတ်များ အတွက် (၅)နှစ်တာ အာလင်မ်သင်ရိုးအတွက် ပြဋ္ဌာန်းအဖြစ် စတင်ရေးသားခဲ့သည်။ ဤမှတဆင့် အခြားသောကျောင်းများတွင်လည်း သင်ကြားရာ အကျိုးဖြစ်ထွန်း ကြောင်း တွေ့ရှိရသည်။

### ဤကျမ်းငယ်၏ ထူးခြားချက်များမှာ ....

- ❍ ရိုးရှင်းလွယ်ကူလှသော ရေးနည်းရေးဟန်ကို အသုံးပြုထားခြင်း။
- ❍ علم أصول الفقه **(ဖေကဟ် သိပ္ပံ )** ပညာရပ်ဆိုင်ရာ ကဏ္ဍများအား စုံလင်စွာတင် ပြထားခြင်း။
- ❍ ခိုင်လုံတိကျသော ကျမ်းများကိုသာ ကိုးကားတင်ပြခြင်း။
- ❍ လက်တွေ့ကျလှသော နည်းစနစ်ကိုအသုံးပြုထားခြင်း။
- ❍ အရဗီဝေါဟာရများကို မြန်မြန်မာဆန်ဆန် တင်ပြထားခြင်း။
- ❍ စာအုပ်ပါ သင်ခန်းစာ တစ်ခုတိုင်းအတွက် သင်ကြားနည်းလမ်းညွှန်ကိုပါ ပူးတွဲ ဖော်ပြ ထားခြင်း။
- ❍ သင်ခန်းစာတစ်ခုပြီးဆုံးလေတိုင်း ယင်းသင်ခန်းစာ၏ အနှစ်ချုပ်ကို နောက်ဆုံး ပိုင်းတွင် ဇယားများဆွဲပြပေးထားခြင်း။

စသည်ဖြင့်......... ကျန်ရှိနေသော အလှတရားများကို စာဖတ်ပရိသတ် အနေဖြင့် ကိုယ်တိုင်ကိုယ်ကျ ခံစားသိမြင်နိုင်ပါသည်။




## ရင်တွင်းစကား

✍ **အလ်ဟားဂ်ျ မောင်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်** ( နဒ်ဝီ၊ အဇုလ်ဟစနီ၊ မဇ္ဇာဟိရီ )

ဤပညာရှင်သည် ကျွန်ုပ်တို့မြန်မာနိုင်ငံရှိ علم أصول الفقه **(ဖေကဟ် သိပ္ပံပညာရပ်)**ဆိုင်ရာနယ်ပယ်၏ တောင်းဆိုချက်တစ်ရပ်ကို ဖြည့်ဆည်းလိုက်ခြင်းဖြစ်သည်။ ကျွန်ုပ်၏မပြည့်စုံသောလေ့လာချက်အရ ဤကျမ်းသည် ဤနယ်ပယ်အတွက် ဆန်းသစ်သောအသွင်၊ လှပသောအဆင်အယင်များဖြင့် စာဖတ်ပရိသတ်အတွက် ရောက်ရှိလာသော ပထမဆုံးကျမ်းဖြစ်လိမ့်မည်ဟု မှတ်ချက်ပြုလိုပါသည်။

ကျွန်ုပ်သည် ဤကျမ်းကို စ၊လယ်၊ဆုံး တစ်ကြိမ်ထက်မနည်း ကြည့်ရှုခဲ့ပါသည်။ လိုအပ်သည်များကိုလည်း အကြိမ်ကြိမ် ဝိုင်းဝန်းပြင်ဆင်ခဲ့ပါသည်။ ဆရာကြီး ဦးအောင်လွင်(ရွှေတြိဂံ)၊ ဆရာကြီးဦးအေးမူ၊ ဆရာကိုမင်း (B.A(his) တို့သည် မြန်မာစာပိုင်းကို တာဝန်ယူစစ်ဆေးပေးခဲ့ပြီး ဘာသာရပ်ပိုင်းဆိုင်ရာကိုမူ ကျွမ်းကျင် အဆင့်ရှိ ပညာရှင်များက တာဝန်ယူစစ်ဆေးပေးခဲ့ပါသည်။

### အကြံပြုချက်

ဤကဲ့သို့ အဖက်ဖက်မှ ဝိုင်းဝန်းကြိုးပမ်းထားသော်လည်း လိုအပ်ချက်များ၊ အမှားများမှာလည်း ဆက်လက်ရှိနေဦးမည်ဖြစ်ပါသည်။ စာရှုသူများဘက်မှ တစ်စုံတစ်ရာ အကြံပြုလိုလျှင်သော်လည်းကောင်း၊ အမှားပြင်ဆင်ချက် တစ်စုံတစ်ရာကိုသော်လည်းကောင်း ချီးမြှင့်လိုပါက ကျမ်းရှင်၏နံပတ် (09-785651939) ကို တိုက်ရိုက် ဆက်သွယ်ပေးပါ ရန် မေတ္တာရပ်ခံအပ်ပါသည်။

အာလင်မ်ကျောင်းတော်များ၏ ကျောင်းအုပ်ဆရာကြီးများ၊ ပညာရေးတာဝန်ခံများ အနေဖြင့် ဤစာအုပ်ကို လေ့လာကြည့်ပြီး မိမိတို့သင်ရိုးတွင် ပြဋ္ဌာန်းစာအုပ်ဖြင့် ထည့်သွင်းမည်ဆိုလျှင် များစွာ အကျိုးရှိလိမ့်မည်ဟု မျှော်လင့်ပါသည်။

## ရင်တွင်းစကား

✍ **အလ်ဟားဂျ် မောင်လာနာ မုဖ်သီ မုဟမ္မဒ် အာစွင်းမ်** ( နဒ်ဝီ၊ အဗုလ်ဟာစနီ၊ မဇ္ဇာဟိရီ )

**နိဂုံးချုပ်ဒိုအာ**

မြင့်မြတ်တော်မူသော အရှင်မြတ် ဤကျမ်းငယ်ကို အထူးလက်ခံသဘောတူတော်မူပါစေ။ ဤကျမ်းပြုစုသူများ၊ ဤကျမ်းဖြစ်မြောက်ရေးတွင် အဖက်ဖက်မှ အုပ်တစ်ချပ်သဲတစ်ပွင့် ပါဝင်ခဲ့ကြသူများ၊ ဤကျမ်းကို သင်ပေးသင်ယူလုပ်သူများကိုလည်း နှစ်ဘဝနှစ်ဌာနတွင် လိုတရ အဆင့်ကို ပိုင်ဆိုင်ခွင့် ချီးမြှင့်ပေးသနားတော်မူပါစေ။

ဤကျမ်းငယ်ဖြင့် အွမ္မသ်ထုတစ်ရပ်လုံးကိုလည်း ကေယာမသ်တိုင် အကြိုးခံစားခွင့်များ ချီးမြှင့်ပေးသနားတော်မူပါစေဟု ဆုမွန်ကောင်းများ အရှင်မြတ်ထံ တောင်းဆုပန် လိုက်ရပါသည်။

✍ မုဟမ္မဒ် အာစွင်းမ် ( နဒ်ဝီ၊အဗွလ်ဟာစနီ၊မဇ္ဇာဟော့ရီ )

ဂ၊ဇုလ်ဟိဂျ်ဂျာလ၊ဟစ်ဂျ်ရီ (၁၄၄၄)ခု

၂၉၊၅၊၂၀၂၃ခု (တနင်္လာနေ့)



بسم الله الرحمن الرحيم

# ... အမှာစာ ...

အာလင်မ်သင်ရိုးညွှန်းတမ်း၏ အခြေခံအတန်းသင်ရိုးတွင် ပညာရပ်အသီးသီး၏ အခြေခံစာအုပ်များကို မြန်မာဘာသာဖြင့် သင်ကြားရေးအစီအစဉ်တွင် ဆရာဖြစ်သူမွတ်ဖ်သီအာစွမ်း (နဒ်ဝီ) ၏ တာဝန်ပေးအပ်မှုအရ အူစူလွလ်ဖိက်ပညာရပ်ကို တာဝန်ယူသင်ကြားခဲ့ရသည်။ သင်ခန်းစာများကို သင်ကြားပို့ချရင်း စာအုပ်အဖြစ် ရေးသားပြုစုခဲ့သည်။ ပညာစတင်သင်ယူဆည်းပူးမည့် ကျောင်းသား များအတွက် ပညာရပ်အသီးသီးကို မိခင်မြန်မာဘာသာစကားဖြင့် စတင်မိတ်ဆက် သင်ကြားပေးခြင်း အားဖြင့် ပညာရပ်များကို ခြုံငုံသဘောပေါက်စေပြီး ရင်းနှီးမှုရစေခြင်းဟူသည့် အကျိုးရလဒ်ကို ဝမ်းမြောက်ဖွယ်တွေ့ရှိခဲ့ရသည်။ ထိုသို့မြန်မာဘာသာဖြင့် သင်ကြားပေးခြင်းသည် ကျောင်းသားများအနေနှင့် ထိုပညာရပ်များကို ဆက်လက်လေ့လာရာတွင် များစွာအထောက်အကူဖြစ်စေပါသည်။

ဤစာအုပ်ပြုစုရာတွင် စတင်လေ့လာမည့် ကျောင်းသားများအတွက် ရည်ရွယ်ရေးသားခြင်းဖြစ်သောကြောင့် လွယ်ကူရိုးရှင်းသည့်ရေးဟန်၊ အကြောင်းအရာများကို စနစ်တကျစီစဉ်ထားရှိမှုနှင့် နားလည်ရလွယ်ကူသည့် ဥပမာများကို ထည့်သွင်းခြင်းစသည့်ပုံစံကို အသုံးပြုထားပါသည်။ ကျောင်း သားများသာမက အူစူလွလ်ဖိက်ဟ်ပညာရပ်နှင့်ပတ်သတ်ပြီး စိတ်ပါဝင်စားသည့်မည်သူမဆို လေ့လာအကျိုးခံစားနိုင်သည့် စာအုပ်တစ်အုပ်ဖြစ်မည်ဟု မျှော်လင့်မိပါသည်။

စာအုပ်ကို အစအဆုံးစိစစ်တည်းဖြတ်ပြီး လိုအပ်သည်တို့ကို ညွှန်ကြားအကြံပေးခဲ့သည့် ဆရာမွဖ်သီအာစွင်းမ်နှင့် ဆရာမွဖ်သီဂျလာလွဒ္ဒီးန်တို့ကို အလ္လာဟ်အရှင် ကောင်းသောအစားချီးမြှင့်စေပါဟု ဆုမွန်ဒိုအာပြုအပ်ပါသည်။

အင်မ်ရာန် (အလ်ကောင်စရီ) – ပဲနွယ်ကုန်း

**➲ သင်ကြားရေးလမ်းညွှန်**

၁ စာအုပ်စတင်သင်ကြားချိန်တွင် ဘာသာရပ်ဆိုင်ရာ သိမှတ်ဖွယ်ရာများကို သေချာနားလည်စေရန်ရှင်းပြရမည်။

၂ သင်ကြားမည့်သင်ခန်းစာကို အလွတ်ရှင်းပြနိုင်သည်အထိ ကျေညက်စွာ ကြိုတင်ဖတ်ရှုထားရမည်။

၃ သင်ကြားရာတွင် အကြောင်းအရာကို နားလည်သည်အထိ အလွတ်သဘောရှင်းပြပြီးမှ စာအုပ်ပါစာသားများကို ဖတ်ရှု၍ ရှင်းပြရမည်။

၄ ရှင်းပြသည့်အချိန်တွင် လိုအပ်ပါက White board အသုံးပြု၍ စနစ်တကျရေးသားပြီးရှင်းပြရမည်။

၅ ဥပဒေများနှင့် အဓိပ္ပါယ်ဖွင့်ဆိုချက်များကို ဥပမာများနှင့်တကွ အလွတ်ကျက်မှတ်ခိုင်းရမည်။

၆ စာအုပ်ပါ ဥပမာများအပြင် အခြားပြင်ပဥပမာများကိုပါ ထည့်သွင်း ရှင်းပြရမည်။

၇ သင်ခန်းစာအဟောင်းများကို နေ့စဉ်ပြန်လည်စစ်ဆေးရမည်။

၈ အခန်းတစ်ခန်းပြီးဆုံးသည်နှင့် နောက်ဆုံးစာမျက်နာတွင် ဖော်ပြထားသောဇယားမှတဆင့် အခန်းတစ်ခန်းလုံး၏ အနှစ်ချုပ်ကို ပြန်လည်ရှင်းပြရမည်။




❖ အုစူလွလ်ဖိက်ဟ်ပညာရပ်ဆိုင်ရာ သိမှတ်ဖွယ်ရာများ

## ⊡ အဓိပ္ပါယ်ဖွင့်ဆိုချက်

أُصُوْلٌ သည် أَصْلٌ ၏အများကိန်းဖြစ်ပြီး အဘိဓာန်အဓိပ္ပါယ်အရ (အုတ်မြစ်များ)၊ ပညာရပ်ဆိုင်ရာဝေါဟာရအရ (ဥပဒေများ) ဟု အဓိပ္ပါယ်ရသည်။

فِقْهٌ သည် အဘိဓာန်အဓိပ္ပါယ်အရ(သိရှိခြင်း)၊ ပညာရပ်ဆိုင်ရာဝေါဟာရအရ (အမိန့်ပညတ်ချက်များနှင့်ပတ်သတ်ပြီး လေ့လာသည့်ပညာရပ်) ကိုခေါ်သည်။ ထို့ကြောင့် أصول သည် နည်းစနစ်ဖြစ်ပြီး فقه သည် ထုတ်ကုန်ဖြစ်သည်။

အုစူလွလ်ဖိက်ဟ်ပညာရပ်ဆိုသည်မှာ အမိန့်ပညတ်ချက် ထုတ်နုတ်ပုံ ထုတ်နုတ်နည်းကို ဆွေးနွေးတင်ပြပေးသည့် ဥပဒေပညာရပ်ကို ခေါ်ပါသည်။

## ⊡ လေ့လာရမည့်နယ်ပယ်

အထောက်အထားများမှ အမိန့်ပညတ်ချက်တို့ကို ထုတ်နုတ်သည့် နည်းဥပဒေများကို လေ့လာရမည်ဖြစ်သည်။

## ⊡ စတင်ပေါ်ပေါက်လာပုံ

တမန်တော်မြတ်ﷺကွယ်လွန်ပြီးနောက် ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်တော်များတွင် တိုက်ရိုက် အတိအလင်းအမိန့်ပညတ်ချက်များ မတင်ပြထားသောကိစ္စရပ်အသစ်များ ပေါ်ပေါက်လာခဲ့သည်။ ထိုကိစ္စရပ်တို့၏ အမိန့်ပညတ်ချက်များကို ဆွဟာဗာသာဝကကြီး؇တို့က ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်တော်တို့တွင် လာရှိထားသော အမိန့်ပညတ်ချက်များကို စံထားပြီး သတ်မှတ်ပြဋ္ဌာန်းခဲ့ကြသည်။ ဆွဟာဗာသာဝကကြီးများ؇၏နောက်တွင် ပေါ်ပေါက်လာသော ပညာရှင်တို့ကလည်း ထိုကဲ့သို့ပင် အမိန့်ပညတ်ချက်များကို ထုတ်ယူခဲ့ကြသည်။ ထိုသို့ အမိန့်ပညတ်ချက်များထုတ်ယူသည့် ဥပဒေတို့ကို စုစည်းရာမှ အုစူလွလ်ဖိက်ဟ်ပညာရပ် ပေါ်ပေါက်လာခြင်းဖြစ်သည်။

**⊡ စတင်ပြုစုခဲ့သူများ**

အုစူလွလ်ဖိကဟ်ပညာရပ်တွင် ပထမဆုံးကျမ်းပြုစုခဲ့သူမှာ အေမာမ် အဗူယူစွဖ်ﷺ ဖြစ်သည်။ ထို့နောက် အေမာမ်မုဟမ္မဒ်ﷺလည်း ကျမ်းတစ်စောင် ပြုစုခဲ့သည်။ သို့သော်ထိုကျမ်းနှစ်ကျမ်းသည် ကျွန်ုပ်တို့လက်ဝယ်သို့ မရောက်ရှိလာခဲ့ပါ။ ကျွန်ုပ်တို့လက်ဝယ်ရှိ အုစူလွလ်ဖိကဟ်ဆိုင်ရာကျမ်းများအနက် ပထမဆုံးကျမ်းမှာ အေမာမ်ရှာဖေအီﷺပြုစုခဲ့သော الرسالة အမည်ရှိ ကျမ်းဖြစ်သည်။

**⊡ ဟနဖီမဇ်ဟဗ်ရှိ နာမည်ကျော် အုစူလွလ်ဖိကဟ်ကျမ်းများ**

- أُصُوْلُ الْإِمَامِ أَبِي الْحَسَنِ الْكَرْخِيِّ

- أُصُوْلُ أَبِي بَكْرٍالْجَصَّاصِ الرَّازِيِّ

- تَأْسِيْسُ النَّظْرِلِأَبِيْ زَيْدٍ عَبْدِاللهِ بْنِ عُمَرَالدَّبُوْسِيُّ

**⊡ အကျိုးကျေးဇူး**

အထောက်အထားများမှ အမိန့်ပညတ်ချက်တို့ကိုထုတ်ယူသည့် နည်းဥပဒေများအကြောင်း သိရှိနားလည်စေသည်။

**⊡ ထွင်ရှုမြတ်မှု**

တရားတော်လာအမိန့်ပညတ်ချက်များကို ထုတ်ယူသည့် နည်းလမ်းများအား ကောင်းစွာနားလည်သဘောပေါက်စေသည့်အတွက် အစ္စလာမ့်ရေးရာ အဆင့်မြင့်ပညာရပ်တစ်ခုအဖြစ် သတ်မှတ်ထားသည်။

ooooo

■ အမိန့်ပညတ်ချက်များ (اَلْأَحْكَامُ)




■ အခြေအနေအပေါ်မူတည်၍ အမိန့်ပညတ်ချက် အမျိုးအစားများ




အခန်း (၁)

■ အမိန့်ပညတ်ချက်များ (اَلأَحْكَامُ)

အမိန့်ပညတ်ချက် ဆိုသည်မှာ လူသားတို့၏လုပ်ဆောင်ချက်များ၊ လုပ်ဆောင်ရမည့်အချက်များနှင့်ပတ်သတ်ပြီး အလ္လာဟ်အရှင်မြတ်ဘက်တော်မှ သတ်မှတ်ပြဋ္ဌာန်းချက်များကိုခေါ်သည်။

♦ **အမျိုးအစားများ**

အမိန့်ပညတ်ချက် (၇) မျိုးရှိပါသည်။ ၎င်းတို့မှာ ...

❶ ဖရ်ဒ် اَلْفَرْضُ ❷ ဝါဂျိဗ် اَلْوَاجِبُ ❸ မွတ်စ်သဟဗ် اَلْمُسْتَحَبُّ
❹ ဟရာမ် اَلْحَرَامُ ❺ မက်ရူဟ်သဟ်ရိမီ اَلْمَكْرُوْهُ التَّحْرِيْمِيُّ
❻ မက်ရူဟ်သန်ဇီဟီ اَلْمَكْرُوْهُ التَّنْزِيْهِيُّ ❼ မိုဗာဟ် اَلْمُبَاحُ



❶ **ဖရ်ဒ်** اَلْفَرْضُ

သံသယဖြစ်ဖွယ်လုံးဝမရှိဘဲ ယတိပြတ်ခိုင်မာသော အထောက်အထားဖြင့် ပြဋ္ဌာန်းထားသော အမိန့်ကိုခေါ်သည်။ လုပ်ဆောင်ရန်အရေးကြီးသည်ဟူသော ယုံကြည်ချက်နှင့်တကွ မဖြစ်မနေလုပ်ဆောင်ရန်လည်း အရေးကြီးသည်။ ဤအမိန့်ကို ငြင်းဆန်ပါက အီမာန်ထိခိုက်စေသည်။

**ဥပမာ** ⇨ အစ္စလာမ့်မဏ္ဍိုင်များဖြစ်သော နမားဇ်၊ ဇကားသ်၊ ရိုဇာ၊ ဟဂျ်။

❷ **ဝါဂျိဗ်** اَلْوَاجِبُ

ယတိပြတ်ခိုင်မာသော အဆင့်မရောက်သည့် အထောက်အထားဖြင့် ပြဋ္ဌာန်းထားသောအမိန့်ကိုခေါ်သည်။ လုပ်ဆောင်ရန်အရေးကြီးသည်ဟူသော ယုံကြည်ချက်ထားရန် တာဝန်မရှိသော်လည်း မဖြစ်မနေလုပ်ဆောင်ရန် အရေးကြီးသည်။

**ဥပမာ** ⇨ နမားဇ်အတွင်း စူရာဟ်ဖာသေဟာဖတ်ခြင်း။

## ❸ မွတ်စ်သဟဗ် اَلْمُسْتَحَبُّ

မဖြစ်မနေလုပ်ဆောင်ရန် ပြဋ္ဌာန်းထားခြင်းမဟုတ်ဘဲ လုပ်ဆောင်ပါက အကျိုးကုသိုလ်ရရှိစေပြီး မလုပ်ဆောင်ပါကလည်း အပြစ်မဖြစ်သည့် အမိန့်ကိုခေါ်သည်။ ဤအမိန့်ကို မန်ဒူးဗ် اَلْمَنْدُوْبُ၊ စွန္နသ် اَلسُّنَّةُ၊ ဖဿီလသ် اَلْفَضِيْلَةُ ဟုလည်းခေါ်ကြသည်။

**ဥပမာ** ⇨ အဆွ်ရ်နမားဇ်ဖရ်ဇ်လေးရကအသ် အလျှင်ရှိ စွန္နသ်လေးရကအသ်။

✍ လေးနက်စွာ ညွှန်ကြားထားသော အချို့မွတ်စ်သဟဗ်တို့ကို အကြောင်းပြချက်မရှိဘဲ စွန့်လွှတ်ခြင်းသည်ကား လိုလားဖွယ်ကိစ္စမဟုတ်ပေ။

**ဥပမာ** ⇨ ဖဂျ်ရ်နမားဇ်ဖရ်ဇ်နှစ်ရကအသ်အလျှင်ရှိ စွန္နသ်နှစ်ရကအသ်။

## ❹ ဟရာမ် اَلْحَرَامُ

သံသယဖြစ်ဖွယ်လုံးဝမရှိဘဲ ယတိပြတ်ခိုင်မာသော အထောက်အထားဖြင့် တားမြစ်ထားသောအမိန့်ကိုခေါ်သည်။ ရှောင်ကြဉ်ရန် အရေးကြီးသည်ဟူသော ယုံကြည်ချက်နှင့်တကွ ရှောင်ကြဉ်ရန်လည်း အရေးကြီးသည်။

**ဥပမာ** ⇨ အရက်သောက်ခြင်း၊ လောင်းကစားလုပ်ခြင်း။

## ❺ မက်ရူဟ်သဟ်ရီမီ اَلْمَكْرُوْهُ التَّحْرِيْمِيُّ

ယတိပြတ် ခိုင်မာသောအဆင့် မရောက်သည့် အထောက်အထားဖြင့် တားမြစ်ထားသောအမိန့်ကိုခေါ်သည်။ ရှောင်ကြဉ်ရန် အရေးကြီးသည်ဟူသော ယုံကြည်ချက်ထားရန် တာဝန်မရှိသော်လည်း လက်တွေ့ရှောင်ကြဉ်ရန် အရေးကြီးသည်။

**ဥပမာ** ⇨ နမားဇ်ဖတ်ခြင်းကို မက်ရူဟ်အဖြစ်သတ်မှတ်ထားသော အချိန်များတွင် နမားဇ်ဖတ်ခြင်း။

## ❻ မက်ရူဟ်သန်ဇီဟီ اَلْمَكْرُوْهُ التَّنْزِيْهِيُّ

တာဝန်တစ်ရပ်အနေနှင့်မဟုတ်ဘဲ ရှောင်ကြဉ်ရန်တားမြစ်ထားသော အမိန့်ကိုခေါ်သည်။ ရှောင်ကြဉ်ခြင်းသည် ချီးမွမ်းဖွယ်ဖြစ်ပြီး ပြုလုပ်ခြင်းသည် လိုလားနှစ်သက်ဖွယ်မဟုတ်ပေ။

**ဥပမာ** ⇨ မတ်တပ်ရပ်၍ ရေသောက်ခြင်း။

## ❼ မိုဗာဟ် اَلْمُبَاحُ

ပြုပိုင်ခွင့်ပေးထားသောအမိန့်ကို ခေါ်ပါသည်။ ပြုလုပ်ခြင်းကြောင့် အကျိုးကုသိုလ်မရသလို မပြုလုပ်ခြင်းကြောင့်လည်း အပြစ်မဖြစ်ပေ။

**ဥပမာ** ⇨ အရောင်းအဝယ်လုပ်ခြင်း။




## ❖ အခြေအနေအပေါ်မူတည်၍ ပြဋ္ဌာန်းထားသော အမိန့်ပညတ်ချက် (၂) မျိုးရှိပါသည်။

**❶ အဇီမသ်** اَلْعَزِيْمَةُ

မည်သည့်အကြောင်းပြချက်မှ မရှိသော ပုံမှန်အခြေအနေအတွက် ပြဋ္ဌာန်းထားသောအမိန့်ကို "အဇီမသ်" ဟုခေါ်ပါသည်။

**ဥပမာ** ⇨ ရမ်ဇာန်လတွင် ရိုဇာစောင့်ထိန်းခြင်း။

**❷ ရွခ်စွသ်** اَلرُّخْصَةُ

ပုံမှန်မဟုတ်သော အခြေအနေတစ်ခုခုကြောင့် ဖြေလျှော့ပေးလိုက်သော အမိန့်ကိုခေါ်ပါသည်။

**ဥပမာ** ⇨ ခရီးသည်နှင့် နာမကျန်းဖြစ်သူတို့အတွက် ရမ်ဇာန်လ၏ရိုဇာကို စွန့်လွှတ်ခွင့်ပေးခြင်း။

🖎**မှတ်ချက်** အသက်အန္တရာယ်စိုးရိမ်ရသောအခြေအနေမရောက်ပါက အဇီမသ်အမိန့်အတိုင်း ကျင့်သုံးခြင်းသည် သာပိုမွန်မြတ်သည်။

**ဥပမာ** ⇨ ခရီးသည်ဖြစ်သော်လည်း ရမ်ဇာန်လ၏ရိုဇာကို စောင့်ထိန်းခြင်း။

➷ အသက်အန္တရာယ်စိုးရိမ်ရသော အခြေအနေ ကြုံကြိုက်လာပါက အဇီမသ် အမိန့်ကို ကျင့်သုံးခြင်း မပိုင်ပေ။

**ဥပမာ** ⇨ ရိုဇာစောင့်ထိန်းခြင်းကြောင့် အသက်အန္တရာယ်ဖြစ်နိုင်သော ရောဂါသည်အတွက် ရမ်ဇာန်လ၏ရိုဇာစောင့်ထိန်းခြင်း မပိုင်ပေ။

➷ သို့သော် ခြွင်းချက်ဖြစ်သော အခြေအနေတစ်ခုရှိသည်။ ၎င်းအခြေအနေမှာ အသက်အန္တရာယ် ခြိမ်းခြောက်ပြီး အီမာန်ပျက်စေမည့်စကားများ ပြောဆိုရန် အတင်းအကြပ်ပြုခြင်းခံရပါက ဖြေလျှော့ပေးသော အမိန့်အရ ပြောဆိုခွင့်ရှိသည်။ သို့သော် အသက်အန္တရာယ်ရှိသော်လည်း အီမာန်ပျက်စေမည့်စကားကို မပြောဆိုဘဲ အဇီမသ်အမိန့်အတိုင်း ကျင့်သုံးပြီး နေခြင်းက သာပိုမွန်မြတ်သည်။ ဤအမိန့်သည် ဤအခြေအနေအတွက်သာ သီးသန့်ဖြစ်သည်။ ကျန်အသက်အန္တရာယ်ရှိသော အခြေအနေများတွင် အဇီမသ်အမိန့်အတိုင်း ကျင့်သုံးခြင်းမပိုင်ပေ။ ရွှခ်စွသ် အမိန့်အတိုင်း ကျင့်သုံးရန်အရေးကြီးသည်။



# အခန်း (၂)

## အထောက်အထားများ (اَلْأَدِلَّةُ)

■ ပညာရှင်များအားလုံးလက်ခံသော အထောက်အထားများ



■ ပညာရှင်များကြား အကွဲအလွဲရှိသောအထောက်အထားများ



## အခန်း (၂)

## အထောက်အထားများ (اَلْأَدِلَّةُ)

အမိန့်ပညတ်ချက်တစ်ခုကိုညွှန်ပြနေသောအရာအား အထောက်အထား ဟုခေါ်သည်။ ပညာရှင်အားလုံးတစ်ညီတစ်ညွတ်တည်း လက်ခံထားသော အထောက်အထား (၄) မျိုးရှိသည်။

❶ ကုရ်အာန် اَلْقُرْآنُ ❷ ဟဒီးဆ် اَلْحَدِيْثُ

❸ အိဂ်ျမာအ် اَلْإِجْمَاعُ ❹ ကိယားစ် اَلْقِيَاسُ

### ❶ **ကုရ်အာန်** اَلْقُرْآنُ

ကုရ်အာန်ကျမ်းမြတ်ဟူသည် ဂျိဗ်ရအီးလ် ﷺ ကောင်းကင်တမန်မှတဆင့် တမန်တော်မြတ် ﷺ ထံတော်သို့ အရဗီဘာသာစကားဖြင့် အလ္လာဟ်အရှင်မြတ်သခင်က ချပေးတော်မူခဲ့သော အလ္လာဟ်ရှင်၏ မိန့်ကြားချက်များကို ခေါ်သည်။ ထိုကျမ်းကိုရွတ်ဖတ်ခြင်းသည် အေဗာဒသ် (ခဝပ်ကိုးကွယ်မှုပြုခြင်း) ထဲတွင်ပါဝင်သည်။ ထိုကျမ်းသည် ကျွန်ုပ်တို့ထံသို့ ခေတ်အဆက်ဆက် ယုံမှားသံသယဖြစ်ဖွယ်မရှိ ယတိပြတ်ခိုင်မာသော ဆင့်ပြန်ချက်များနှင့် ရောက်ရှိလာခဲ့ခြင်းဖြစ်သည်။

#### ➷ **အမိန့်**

ကုရ်အာန်ကျမ်းမြတ်၏ အာယသ်တစ်ခုတိုင်းသည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ချပေးထားသော အမိန့်တော်များဖြစ်ကြောင်း ယုံကြည်ချက်ထားရန် မွတ်စ်လင်မ်တိုင်းအပေါ် တာဝန်ရှိသည်။ ကုရ်အာန်ကျမ်းမြတ်၏ အာယသ်တော်တစ်ခုကို ငြင်းဆန်ခြင်းသည် အီမာန်ပျက်စေသည်။ ကုရ်အာန်ကျမ်းမြတ်သည် အမိန့်ပညတ်ချက်များ ပြဋ္ဌာန်းရာတွင် ပထမဆုံးဦးစားပေးမှီငြမ်းလက်ကိုင်ပြုရမည့် အဆင့်တွင်ရှိပါသည်။

### ❖ ကုရ်အာန်ကျမ်းမြတ်တွင် ပါဝင်သော အမိန့်ပညတ်ချက်များကို အမျိုးအစား (၃) မျိုး ခွဲနိုင်သည်။

⊡ ယုံကြည်ချက်ပိုင်းဆိုင်ရာ အမိန့်ပညတ်ချက်များ။

⊡ ကိုယ်ကျင့်တရားပိုင်းဆိုင်ရာ အမိန့်ပညတ်ချက်များ။

⊡ ကျင့်သုံးမှုပိုင်းဆိုင်ရာ အမိန့်ပညတ်ချက်များ။

### ❖ အဓိပ္ပါယ်ဖော်ပြသည့်ပုံစံ

■ ကုရ်အာန်ကျမ်းလာစကားလုံးများ၏ အဓိပ္ပါယ်ဖော်ပြသည့်ပုံစံ (၂) မျိုးရှိသည်။

(၁) အဓိပ္ပါယ်တစ်ခုကို အတိအကျ ပြတ်ပြတ်သားသား ဖော်ပြသည့်ပုံစံ။ ဥပမာ

اَلزَّانِيَةُ وَالزَّانِىْ فَاجْلِدُوْا كُلَّ وَاحِدٍ مِّنْهُمَا مِائَةَ جَلْدَةٍ ۠ (سورة النّور/ آية ٢)

အထက်ပါအာယသ်တော်၌ ဇေနာကျူးလွန်ခြင်း၏ ပြစ်ဒဏ်သည် ကြိမ်ဒဏ် (၁၀၀) ဖြစ်ကြောင်း အတိအကျ အဓိပ္ပါယ်ဖော်ပြနေသည်။ ထို့ကြောင့် ဤအာယသ်တော်တွင် အဓိပ္ပါယ်ဖော်ပြသည့်ပုံစံသည် ရှင်းလင်းပြတ်သားသည့် ပုံစံဖြစ်သည်။

(၂) တစ်ခုထက်ပိုသော အဓိပ္ပါယ်များကို ဖော်ပြနေသည့် ပုံစံ။ ဥပမာ

وَالْمُطَلَّقٰتُ يَتَرَبَّصْنَ بِاَنْفُسِهِنَّ ثَلٰثَةَ قُرُوْٓءٍ ؕ (سورة البقرة/ آية ٢٢٨)

အထက်ပါအာယသ်တော်ရှိ قُرُوْءٌ ဟူသည့် စကားလုံးတွင် ရာသီသွေးဆင်းနေသည့် အချိန်နှင့် ရာသီသွေးဆင်းခြင်းမရှိသောအချိန်ဟူသည့် အဓိပ္ပါယ်နှစ်ခု ပါဝင်နေသည်။ ထို့ကြောင့် ဤအာယသ်တော်တွင် အဓိပ္ပါယ်ဖော်ပြသည့်ပုံစံသည် ရှင်းလင်းပြတ်သားသည့်ပုံစံ မဟုတ်ပေ။

## ၂ ဟဒီးဆ် اَلْحَدِيْثُ

ဟဒီးဆ်ဆိုသည်မှာ တမန်တော်မြတ် ﷺ မိန့်ကြားချက်များ၊ လုပ်ဆောင်ချက်များနှင့် အတည်ပြုချက်များကို ခေါ်သည်။ “ဟဒီးဆ်” ကို “စွန္နသ်” ဟုလည်း ခေါ်သည်။

➷ ဆင့်ပြန်သည့်ပုံစံကို အခြေခံ၍ ဟဒီးဆ်၏စစ်မှန်မှုကို သက်သေပြရာတွင် ဟဒီးဆ်အမျိုးအစား (၃) မျိုးရှိပါသည်။ ၎င်းတို့မှာ …

(၁) မိုသဝါသိရ် اَلْمُتَوَاتِرُ (၂) မရ်ှဟူးရ် اَلْمَشْهُوْرُ

(၃) ခဗရွလ်ဝါဟိဒ် خَبْرُالْوَاحِدِ

(၁) မိုသဝါသိရ် اَلْمُتَوَاتِرُ

ဆင့်ပြန်ရာလမ်းကြောင်း၏ အစမှအဆုံးအထိ အဆင့်တိုင်းတွင် ဆင့်ပြန်သူ အရေအတွက်သည် စုပေါင်းလိမ်လည်မှုရှိနိုင်သည်ဟူ၍ အလျဉ်းပြောဆို၍မရနိုင်သည့် အရေအတွက်မျိုးရှိသည့် ဟဒီးဆ်ကို မိုသဝါသိရ်ဟဒီးဆ်ဟုခေါ်သည်။

**➷ အမိန့်**

ယတိပြတ် ခိုင်မာကြောင်း ယုံကြည်ချက်ထားပြီး လက်တွေ့ကျင့်သုံးရန် အရေးကြီးသည်။ ငြင်းဆန်ပါက အီမာန်ပျက်သည်။

**ဥပမာ** ⇨ ဖရ်ဇ်နမားဇ် (၅) ကြိမ်နှင့် ၎င်းနမားဇ်တို့တွင်ပါဝင်သော ရကအသ် အရေအတွက်များနှင့် ပတ်သတ်ပြီး လာရှိသော ဟဒီးဆ်များ။

## ၂ မရှ်ဟူးရ် اَلْمَشْهُوْرُ

ဆင့်ပြန်ရာလမ်းကြောင်း၏ ပထမအဆင့်တွင် သဝါသွရ် အရေအတွက် မရောက်သည့်ဆွဟာဗာ ﷺများက တမန်တော်မြတ်ﷺထံမှ ဆင့်ပြန်ထားပြီး ကျန်အဆင့်အားလုံးတွင် ဆင့်ပြန်သူအရေအတွက်သည် သဝါသွရ်အဆင့်ရှိသည့် ဟဒီးဆ်ကို မရှ်ဟူးရ်ဟဒီးဆ်ဟုခေါ်သည်။

### ➭ အမိန့်

ယုံကြည်စိတ်ချရသည့် အဆင့်တွင်ရှိသည်ဟု ယုံကြည်ချက်ထားရမည်။ ငြင်းဆန်ခြင်းသည် တရားသစ်တီထွင်ခြင်းဖြစ်သည်။

**ဥပမာ** ⇨ခြေအိတ်ပေါ်တွင်မစဟ်ပြုပိုင်ခြင်းနှင့်ပတ်သတ်ပြီးလာရှိသောဟဒီးဆ်များ

## ၃ ခဗရွလ်ဝါဟိဒ် خَبَرُالْوَاحِدِ

ဆင့်ပြန်ရာလမ်းကြောင်း၏ အဆင့်တိုင်းတွင် ဆင့်ပြန်သူအရေအတွက်သည် သဝါသွရ်အဆင့်မရှိသည့် ဟဒီးဆ်ကို ခဗရွလ်ဝါဟိဒ် ဟဒီးဆ်ဟုခေါ်သည်။ ဟဒီးဆ်ကျမ်းများတွင်ပါရှိသောဟဒီးဆ်များသည်များသောအားဖြင့်ဤအမျိုးအစားထဲမှဖြစ်သည်။

### ➭ အမိန့်

ယတိပြတ်ခိုင်မာကြောင်း ယုံကြည်ချက်ထားရန် အရေးမကြီးသော်လည်း ဆင့်ပြန်သူများနှင့်ပတ်သတ်၍ စီရင်ထုံးများနှင့်အညီ လေ့လာသုံးသပ်ပြီး ဆင့်ပြန်သည့်လမ်းကြောင်းသည်ခိုင်မာပါက လက်ခံကျင့်သုံးရန် တာဝန်ရှိသည်။

■ ခဗရွလ်ဝါဟိဒ်ဖြစ်သော ဟဒီးဆ်တစ်ပုဒ်ကို ခိုင်မာသည်ဟု သတ်မှတ်ရန်အတွက် လိုအပ်သောစည်းကမ်းချက်များနှင့် ကိုက်ညီရန်အရေးကြီးသည်။ ထိုစည်းကမ်းချက်များမှာ ...

(၁) ဆင့်ပြန်သူသည် မွတ်စ်လင်မ်ဖြစ်ခြင်း၊ ဖြောင့်မတ်မှန်ကန်သူဖြစ်ခြင်း၊ မှတ်သားဉာဏ်ကောင်းသူဖြစ်ခြင်း၊ အသိဉာဏ်ရှိသူဖြစ်ခြင်း။

(၂) အဆင့်ဆင့် ဆင့်ပြန်သူများသည် အချင်းချင်းချိတ်ဆက်မှုရှိနေပြီးစနဒ် (ကွင်းဆက်) ပြတ်တောက်သွားမှုမရှိခြင်း။

■ ခဗရွလ်ဝါဟိဒ်ဟဒီးဆ်ကို လက်တွေ့လိုက်နာကျင့်သုံးရန်အတွက် လိုအပ်သောစည်းကမ်းချက်များမှာ ...

(၁) ကုရ်အာန်ကျမ်းလာအမိန့်နှင့် ဆန့်ကျင်နေခြင်းမရှိရ။

(၂) မရှ်ဟူးရ်အဆင့်ရှိသော ဟဒီးဆ်နှင့် ဆန့်ကျင်နေခြင်းမရှိရ။

(၃) လက်တွေ့ကျင့်ဆောင်ချက်များနှင့် ဆန့်ကျင်နေခြင်းမရှိရ။

## ❸ အိဂျ်မာ့အ် اَلْإِجْمَاعُ

တမန်တော်မြတ် ﷺ မရှိတော့သည့်နောက်ပိုင်း ခေတ်တစ်ခေတ်တွင် မုဂျ်သဟိဒ် (ကုရ်အာန်နှင့်ဟဒီးဆ်မှ တိုက်ရိုက်အမိန့်ထုတ်ပြန်နိုင်စွမ်းရှိသော ပညာရှင်များ)က ကုရ်အာန်နှင့် ဟဒီးဆ်ကိုမှီငြမ်းကာ အမိန့်တစ်ခုအား တစ်ညီတစ်ညွတ်တည်း ဆုံးဖြတ်ချက်ချလိုက်ခြင်းကိုခေါ်သည်။

**➭ အမိန့်**

လိုက်နာကျင့်သုံးရန် အရေးကြီးသည်။ ဆန့်ကျင်ခွင့်မရှိပေ။

**❖ အိဂ်ျမာ့အ်ဖြစ်သည့်ပုံစံ (၂) မျိုးရှိသည်။**

(၁) အလ်အိဂ်ျမာအွဆ်ဆွရီးဟ် اَلْإِجْمَاعُ الصَّرِيْحُ

(၂) အလ်အိဂ်ျမာအွစ်စုကူသီး اَلْإِجْمَاعُ السُّكُوْتِيُّ

(၁) အလ်အိဂ်ျမာအွဆ်ဆွရီးဟ် اَلْإِجْمَاعُ الصَّرِيْحُ

ဆွရီးဟ်ပုံစံနှင့်ဖြစ်သော အိဂ်ျမာ့အ်ဆိုသည်မှာ မုဂ်ျသဟိဒ် (ကုရ်အာန်နှင့် ဟဒီးဆ်မှတိုက်ရိုက်အမိန့်ထုတ်ပြန်နိုင်စွမ်းရှိသောပညာရှင်များ) အားလုံးက အမိန့်တစ်ခုကို တစ်ညီတစ်ညွတ်တည်း အတိအလင်း ထုတ်ဖော်ပြောဆိုသည့်ပုံစံကို ခေါ်သည်။ **ဥပမာ** ⇨ အဗူဗကရ် ﷺ ၏ခေလာဖသ်။

**⮱ အမိန့်**

ဆန့်ကျင်ခွင့်မရှိ။ ယတိပြတ်ခိုင်မာသော အဆင့်တွင်ရှိသည့် အထောက်အထားဖြစ်သည်။

(၂) အလ်အိဂ်ျမာအွစ်စုကူသီး اَلْإِجْمَاعُ السُّكُوْتِيُّ

စုကူသီးပုံစံနှင့်ဖြစ်သော အိဂ်ျမာ့အ်ဆိုသည်မှာ မုဂ်ျသဟိဒ် (ကုရ်အာန်နှင့် ဟဒီးဆ်မှ တိုက်ရိုက်အမိန့်ထုတ်ပြန်နိုင်စွမ်းရှိသောပညာရှင်) များထဲမှ အချို့ကသာ တူညီသောအမိန့်ကို ထုတ်ဖော်ပြောဆိုပြီး ကျန်အချို့က ထုတ်ဖော်ပြောဆိုရန် မည်သည့်အဟန့်အတားမှ မရှိသော်လည်း ထုတ်ဖော်ပြောဆိုခြင်းမရှိသည့်ပုံစံကို ခေါ်သည်။ အိဂ်ျမာ့အ်ဖြစ်သည့် ပုံစံအများစုသည် ဤအမျိုးအစားထဲမှ ဖြစ်ကြသည်။ **ဥပမာ** ⇨ သရာဝီနမားဇ်ကို ရကအသ် (၂၀) ဖတ်ခြင်း။

**⮱ အမိန့်**

အထောက်အထားဖြစ်သော်လည်း ယတိပြတ်ခိုင်မာသောအဆင့်တွင်မရှိပေ။

### ❖ အိဂျ်မာ့အ်တစ်ခုတွင် မှီငြမ်းကိုးကားမှုများ

(၁) ကုရ်အာန်ကျမ်းမြတ် (၂) ဟဒီးဆ်တော်များ

(၃) ကေယားစ် (၄) အများအကျိုးကိုထောက်ရှုခြင်း

### ❹ ကိယားစ် اَلْقِيَاسُ

ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်တော်များတွင် တိုက်ရိုက်အမိန့်မလာရှိထားသော ကိစ္စရပ်များအား ကုရ်အာန်နှင့်ဟဒီးဆ်တွင် အမိန့်လာရှိထားသော ကိစ္စရပ်များနှင့် နှစ်ဖက်တွင်ရှိသည့်တူညီသည့်အကြောင်းခံကို အခြေခံ၍ နှိုင်းယှဉ်ဆင်ခြင်အမိန့်သတ်မှတ်ခြင်းကိုခေါ်သည်။

**ဥပမာ** ⇨ ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် အရက်သောက်ခြင်းကို "ဟရာမ်" အဖြစ်သတ်မှတ်ထားသည်။ အကြောင်းအရင်းမှာ "မူးယစ်စေခြင်း" ဖြစ်သည်။ ထို့ကြောင့် မူးယစ်စေသည့် တခြားသောအရည်များကိုလည်း "ဟရာမ်" အဖြစ်သတ်မှတ်ခြင်းကို ကေယားစ်လုပ်၍အမိန့်သတ်မှတ်သည်ဟုခေါ်သည်။

### ❖ ကေယားစ်တစ်ခုတွင်ပါဝင်သောအချက်များ

(၁) နှိုင်းယှဉ်ချိန်ထိုးခြင်းခံရသော ကုရ်အာန်နှင့် ဟဒီးဆ်တွင် အမိန့်လာရှိသည့် ကိစ္စရပ်။ (မကီးစ်အလိုင်းဟ်) (اَلْمَقِيْسُ عَلَيْهِ)

(၂) ကုရ်အာန်နှင့် ဟဒီးဆ်တွင်လာရှိထားသော အမိန့်။ (ဟူကွမ်) (اَلْحُكْمُ)

(၃) ကုရ်အာန်နှင့် ဟဒီးဆ်တွင် အမိန့်မလာရှိထားသောကိစ္စရပ်။ (မကီးစ်) (اَلْمَقِيْسُ)

(၄) အမိန့်သတ်မှတ်ခြင်းကိုဖြစ်ပေါ်စေသည့်တူညီသောအကြောင်းခံ။(အိလ်လသ်) (اَلْعِلَّةُ)

## ❖ မှန်ကန်သောကေယားစ်တစ်ခုအတွက် လိုအပ်သော စည်းကမ်းချက်များ

၁) ကုရ်အာန်နှင့် ဟဒီးဆ်လာကိစ္စရပ်သည် အသိဉာဏ်ဖြင့် စဉ်းစားဆင်ခြင်နိုင်ဖွယ် ဖြစ်ရမည်။

၂) နှိုင်းယှဉ်ချိန်းထိုးကြည့်မည့် ကိစ္စရပ်သည် ကုရ်အာန်နှင့် ဟဒီးဆ်တွင် အမိန့်လာရှိထားခြင်းမရှိရ။

၃) ကုရ်အာန်နှင့် ဟဒီးဆ်လာအမိန့်သည် လူတစ်ဦးတစ်ယောက်အတွက် သီးသန့်မဖြစ်ရ။

၄) ကုရ်အာန်နှင့် ဟဒီးဆ်လာ မူရင်းအမိန့်ကို အပြောင်းအလဲမဖြစ်စေရ။

၅) အကြောင်းခံသည် ကုရ်အာန်နှင့်ဟဒီးဆ်တွင်လာရှိသော အမိန့်နှင့်သာ သီးသန့်ဖြစ်သော အကြောင်းခံမျိုးမဖြစ်ရ။



■ ပညာရှင်များကြား အကွဲအလွဲရှိသောအထောက်အထားများ

အထောက်အထားအဖြစ်သတ်မှတ်ရာတွင် ပညာရှင်များကြား အကွဲအလွဲရှိသော အထောက်အထားအမျိုးအစား (၆) မျိုးရှိသည်။ ၎င်းတို့မှာ ...

(၁) اَلْاِسْتِحْسَانُ (၂) اَلْمَصْلَحَةُ الْمُرْسَلَةُ (၃) اَلْعُرْفُ

(၄) اَلْاِسْتِصْحَابُ (၅) شَرْعُ مَنْ قَبْلَنَا (၆) قَوْلُ الصَّحَابِيِّ

(၁) **အစ်သေ့ဟ်စားန်** اَلْاِسْتِحْسَانُ

ခိုင်မာသောအထောက်အထား တစ်ခုကြောင့် ကေယားစ်အတိုင်း အမိန့်မသတ်မှတ်ဘဲ ထိုခိုင်မာသောအထောက်အထားကို ဦးစားပေး၍ အမိန့်သတ်မှတ်ခြင်းကိုခေါ်သည်။

**ဥပမာ** ⇨ ဟဒီးဆ်တစ်ပုဒ်တွင် မမြင်တွေ့ရသေးသောအရာအား အရောင်း အဝယ်လုပ်ခြင်းကို တမန်တော်မြတ် ﷺ တားမြစ်တော်မူခဲ့သည်ဟု လာရှိထားသည်။ ထိုဟဒီးဆ်ကို ကေယားစ်လုပ်ခြင်းအရ အော်ဒါကြိုတင်မှာသည့်ပုံစံဖြင့် ပြုလုပ်သောအရောင်းအဝယ်မပိုင်သင့်ပေ။ ပစ္စည်းမမြင်တွေ့ရသေးသောကြောင့်ဖြစ်သည်။ သို့သော်အော်ဒါကြိုတင်မှာပြီးပြုလုပ်သောအရောင်းအဝယ်ကို ခွင့်ပြုပေးထားသောဟဒီးဆ်များအရ ထိုကဲ့သို့ အရောင်းအဝယ်ပြုခြင်းကို ခွင့်ပြုပေးထားသည်။ ကေယားစ်အရမပိုင်သော်လည်း ပိုမိုခိုင်မာသော အထောက်အထား (တခြားဟဒီးဆ်များ) အရ ပြုပိုင်ခွင့်ပေးခြင်းဖြစ်သည်။

## ၂ အလ်မဆွဲလဟသွလ်မွရ်စလဟ် اَلْمَصْلَحَةُ الْمُرْسَلَةُ

ရှရီအသ်တရားတော်၏ တောင်းဆိုချက်များနှင့် ကိုက်ညီသော ကောင်းကျိုးများကို ခေါ်သည်။ သို့သော် ထိုကောင်းကျိုးများအတွက် ကုရ်အာန်နှင့်ဟဒီးဆ်တွင် အမိန့်ပြဋ္ဌာန်းထားခြင်းမရှိပေ။ ထိုကောင်းကျိုးများကို အတည်ပြုထားခြင်းမရှိသလို ပယ်ဖျက်ထားခြင်းလည်းမရှိပေ။ အခြေအနေနှင့် လိုအပ်ချက်များအရ ပေါ်ပေါက်လာသော ရှရီအသ်နှင့်ကိုက်ညီသည့် ကောင်းကျိုးများကို ခေါ်ခြင်းဖြစ်သည်။
**ဥပမာ** ⇨ အချုပ်ခန်းနှင့် အကျဉ်းထောင်များ တည်ထောင်ခြင်း၊ အိမ်၊ ခြံ၊ မြေ အရောင်းအဝယ်များတွင် စာချုပ်ချုပ်ဆိုခြင်း။

➥ ဟနဖီပညာရှင်များက ထိုကောင်းကျိုးများသည် စည်းကမ်းချက်အချို့နှင့် ကိုက်ညီပါက အထောက်အထားအဖြစ် သတ်မှတ်ကြသည်။ ထိုစည်းကမ်းချက်များမှာ ...

❶ စဉ်းစားဆင်ခြင်နိုင်ဖွယ် ဖြစ်ခြင်း။

❷ လက်တွေ့တွင် အမှန်တကယ် အကျိုးရှိခြင်း။

❸ တစ်ဦးတစ်ယောက်အတွက်သာ အကျိုးရှိခြင်းမဟုတ်ဘဲ အများအတွက်အကျိုးရှိခြင်း။

❹ ရှရီအသ်တရားတော်က အတည်ပြုထားခြင်းနှင့် ပယ်ဖျက်ထားခြင်းမရှိခြင်း။

■ ရှရီအသ်တရားတော်က အတည်ပြုထားသောကောင်းကျိုးများကို اَلْمَصَالِحُ الْمُعْتَبَرَةُ ဟုခေါ်သည်။

■ ရှရီအသ်တရားတော်က လက်ခံအတည်ပြုထားခြင်းမရှိသော ကောင်းကျိုးများကို اَلْمَصَالِحُ الْمُلْغَاةُ ဟုခေါ်သည်။

② **အွရ်ဖ်** اَلْعُرْفُ

လူအများပြောဆိုသော အသုံးအနှုန်းများနှင့် ပြုမူဆောင်ရွက်မှုများကို ခေါ်သည်။ ဤအွရ်ဖ်ကိုအကြောင်းခံ၍ များစွာသော အမိန့်ပညတ်ချက်များကို သတ်မှတ်ပြဋ္ဌာန်းထားသည်။ အွရ်ဖ် (၂) မျိုးရှိသည်။ ၎င်းတို့မှာ ...

❶ အလ်အွရ်ဖွလ်ကောင်လီ اَلْعُرْفُ الْقَوْلِيُّ

❷ အလ်အွရ်ဖွလ်ဖိအ်လီ اَلْعُرْفُ الْفِعْلِيُّ

❶ အလ်အွရ်ဖွလ်ကောင်လီ اَلْعُرْفُ الْقَوْلِيُّ

တွင်တွင်ကျယ်ကျယ်သုံးနှုန်းပြောဆိုသည့် ပုံစံများကို ခေါ်သည်။
**ဥပမာ** ⇨ "အသား" ဟူသောစကားလုံးတွင် ငါး၏အသား ပါဝင်ခြင်းမရှိကြောင်း၊ "သာသနာ့ပညာသင်ကျောင်းသား" ဟူသောစကားလုံးသည် သာသနာ့ပညာ သင်ကြားပို့ချသော ကျောင်းတစ်ကျောင်းတွင် ပညာသင်ယူနေသူများကိုသာ ရည်ရွယ်သော အသုံးအနှုန်းဖြစ်ကြောင်း စသဖြင့်။

❷ အလ်အွရ်ဖွလ်ဖိအ်လီ اَلْعُرْفُ الْفِعْلِيُّ

လူအများစု ပြုလုပ်ဆောင်ရွက်လေ့ရှိသော ဓလေ့ထုံးတမ်းများကိုခေါ်သည်။
**ဥပမာ** ⇨ စက်ပစ္စည်းများဝယ်ယူရာတွင် ပေးလေ့ပေးထရှိသော အာမခံသက်တမ်း။

➯ သီးသန့်ဒေသတစ်ခုတွင်သာ တွင်ကျယ်သော အွရ်ဖ်နှင့် နေရာဒေသအများစုတွင် တွင်ကျယ်သော အွဖ်ရ်ဟူ၍ နှစ်မျိုးခွဲနိုင်သည်။ အွရ်ဖ်တစ်ခုကို ထိုအွရ်ဖ် တွင်ကျယ်သောဒေသတွင်သာ အတည်ပြုမည်ဖြစ်သည်။

❖ ရှရီအသ်တရားတော်က လက်ခံအတည်ပြုခြင်းရှိ မရှိကို အခြေခံ၍ "အွရ်ဖ်" (၂) မျိုးရှိသည်။ ၎င်းတို့မှာ ...

❶ အလ်အွရ်ဖွ်စ်စွဟီးဟ် اَلْعُرْفُ الصَّحِيْحُ

❷ အလ်အွရ်ဖွ်လ်ဖာစိဒ် اَلْعُرْفُ الْفَاسِدُ

❶ အလ်အွရ်ဖွ်စ်စွဟီးဟ် اَلْعُرْفُ الصَّحِيْحُ

ကုရ်အာန်၊ ဟဒီးဆ်၊ အိဂ်ျမာ့အ်တို့နှင့် ဆန့်ကျင်ခြင်းမရှိသည့် "အွရ်ဖ်" ကို ခေါ်သည်။ **ဥပမာ** ⇨ စရံငွေပေး၍ ပစ္စည်းတစ်ခု ပြုလုပ်ခိုင်းခြင်း။

❷ အလ်အွရ်ဖွ်လ်ဖာစိဒ် اَلْعُرْفُ الْفَاسِدُ

ရှရီအသ်တရားတော်နှင့် ဆန့်ကျင်နေသည့်ကိစ္စများပါဝင်သော "အွရ်ဖ်" ကို ခေါ်သည်။ **ဥပမာ** ⇨ အမျိုးသားနှင့် အမျိုးသမီးများ ရောနှောမှုဖြစ်စေသည့် အခမ်းအနားများ ပြုလုပ်ခြင်း။

➯ ထို့ကြောင့် လူအများလက်ခံကျင့်သုံးနေသော အွရ်ဖ်တစ်ခုသည် ရှရီအသ်တရားတော်နှင့် ဆန့်ကျင်ခြင်းမရှိပါက လူတို့၏လိုအပ်ချက်နှင့် အကျိုးရလဒ်ကို ထောက်ရှုပြီး ရှရီအသ်တရားတော်ကလည်း လက်ခံအတည်ပြုထားသည်။ သို့သော် ရှရီအသ်တရားတော်နှင့်ဆန့်ကျင်နေသောကိစ္စရပ်များ ပါဝင်ပါက မည်မျှပင် တွင်ကျယ်နေသော အွရ်ဖ်ဖြစ်ပါစေ လက်ခံအတည်ပြုခြင်းခံရမည်မဟုတ်။

## ၆ အိစ်သိဆ္ဟွားဗ် اَلْإِسْتِصْحَابُ

ပြောင်းလဲသွားကြောင်းညွှန်ပြသော အထောက်အထားကို မတွေ့ရှိသောကြောင့် မူလရှိခဲ့သောအမိန့်အတိုင်း ဆက်လက်ကျန်ရှိစေခြင်းကို အစ်သိဆ္ဟွားဗ်ဟုခေါ်သည်။

**ဥပမာ** ⇨ ဝူဇူပြုထားသူတစ်ဦးသည် ဝူဇူပျက်စေသောအချက်တစ်ခုခု မကြုံတွေ့ရသေးဘဲ ဝူဇူရှိနေခြင်းကို သံသယဝင်လာပါက ဝူဇူရှိနေသေးသည်ဟုသာ သတ်မှတ်ရမည်။ အတိအကျမသိရဘဲ သံသယဖြစ်ခြင်းသက်သက်ကြောင့် ဝူဇူမပျက်ပေ။

### ❖ အခြေခံအားဖြင့် အိစ်သိဆ္ဟွားဗ်၏ပုံစံ (၃) မျိုးရှိသည်။

❶ တားမြစ်မှုကို ညွှန်ပြသောအထောက်အထားမရှိသ၍ အရာရာတိုင်း၏မူလအမိန့်ကို ပြုပိုင်သည်ဟုသတ်မှတ်ခြင်း။ ဤအမိန့်သည် ကုရ်အာန်ကျမ်းလာ အာယသ်တစ်ခုအရဖြစ်သည်။ ထိုအာယသ်မှာ ...

هُوَ الَّذِىْ خَلَقَ لَكُمْ مَّا فِى الْاَرْضِ جَمِيْعًا ۙ(سورة البقرة/ آية ٢٩)

ထိုအရှင်မြတ်သည် အသင်တို့အတွက် မြေပထဝီတွင် အလုံးစုံသောအရာတို့ကို ဖန်ဆင်းထားတော်မူသည်။

❷ မူလကတည်းက အရာတစ်ခုထဲတွင်မပါဝင်သောအရာကို ပါဝင်ကြောင်းညွှန်ပြသည့် အထောက်အထားမတွေ့သ၍ မပါဝင်ကြောင်းသာ သတ်မှတ်ခြင်း။

❸ အကြောင်းအချက်တစ်ခုကြောင့် အတည်ပြုထားသောအမိန့်ကို ထိုအကြောင်းခံမရှိကြောင်း အတည်ပြုနိုင်သောအထောက်အထား မတွေ့သ၍ ထိုအမိန့်ကိုသာ ဆက်လက်အတည်ပြုခြင်း။

➯ ဟနဖီပညာရှင်များထံတွင် အိစ်သိဆွ်ဟားဗ်သည် ရပိုင်ခွင့်များကို ကာကွယ် ရာတွင် အထောက်အထားဖြစ်ပြီး ရပိုင်ခွင့်များကို ရယူရန်အတွက် အထောက်အထားမဖြစ်ပေ။

## ⑤ ရှရ်အို့ မန်ကဗ်လနာ شَرْعُ مَنْ قَبْلَنَا

ယနေ့အချိန်ကာလတွင်ရှိနေသော ကောင်းကင်ကျကျမ်းများတွင် လာရှိသည့် ရှေးယခင်အွမ္မသ်တို့၏ရှရီအသ်များတွင် ပြဋ္ဌာန်းထားသော အမိန့်များသည် ကျွန်ုပ်တို့အွမ္မသ်၏ရှရီအသ်အတွက် အထောက်အထားဖြစ်မည်မဟုတ်ပေ။ အဘယ်ကြောင့်ဆိုသော် ထိုကျမ်းဂန်များသည် မူလအတိုင်းမရှိတော့ဘဲ လူတို့၏ အပြောင်းအလဲပြုလုပ်ထားခြင်းများ ပါဝင်နေသောကြောင့်ဖြစ်သည်။

သို့သော် ရှေးယခင်အွမ္မသ်တို့၏ ရှရီအသ်များတွင် ပြဋ္ဌာန်းထားကြောင်း ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် တင်ပြထားသည့် အမိန့်များရှိသည်။ ထိုအမိန့်များကို အမျိုးအစား (၃) မျိုးခွဲနိုင်သည်။ ၎င်းတို့မှာ ...

❶ ရှေးယခင်အွမ္မသ်တို့၏ရှရီအသ်များတွင် ပြဋ္ဌာန်းထားသည့်အတိုင်း ကျွန်ုပ်တို့ရှရီအသ်တွင်လည်း ဆက်လက်ပြဋ္ဌာန်းထားကြောင်း တင်ပြထားသောအမိန့်များ။ ထိုအမိန့်များကို လိုက်နာကျင့်သုံးရန် အရေးကြီးကြောင်း ပညာရှင်များအားလုံး တစ်ညီတစ်ညွတ်တည်း လက်ခံထားသည်။ **ဥပမာ** ⇨ ရိုဇာ၏အမိန့်။

❷ ရှေးယခင်အွမ္မသ်တို့၏ရှရီအသ်များတွင် ပြဋ္ဌာန်းထားကြောင်း ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် တင်ပြထားပြီး ထိုအမိန့်များသည် ကျွန်ုပ်တို့ရှရီအသ်တွင် ဆက်လက်ပြဋ္ဌာန်းထားခြင်းမရှိတော့ဘဲ ပယ်ဖျက်လိုက်ပြီဖြစ်ကြောင်း တင်ပြထားသောအမိန့်များ။ ဤအမိန့်များသည်လည်း ကျွန်ုပ်တို့ရှရီအသ်တွင် ပြဋ္ဌာန်းထားခြင်းမရှိကြောင်း ပညာရှင်များကြား အကွဲအလွဲမရှိပေ။
**ဥပမာ** ⇨ မသန့်ပေလူးသွားသောအဝတ်နှင့်ပတ်သတ်၍ ပေလူးသွားသောနေရာကို ညှပ်လိုက်မှသာ အဝတ်သန့်သွားမည်ဟူသောအမိန့်။

❸ ရှေးအွမ္မသ်တို့၏ရှရီအသ်များတွင် ပြဋ္ဌာန်းထားကြောင်း ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် တင်ပြထားပြီး ထိုအမိန့်များသည် ကျွန်ုပ်တို့ရှရီအသ်တွင် ဆက်လက်ပြဋ္ဌာန်းထားခြင်းရှိ / မရှိကိုမူ ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် တင်ပြထားခြင်းမရှိသောအမိန့်များ။ ထိုအမိန့်များနှင့် ပတ်သတ်၍ ပညာရှင်များကြား အကွဲအလွဲရှိသည်။ ဟနဖီပညာရှင်များက ထိုအမိန့်များကိုလည်း လိုက်နာကျင့်သုံးရန် အရေးကြီးကြောင်း ဆုံးဖြတ်ထားကြသည်။

**ဥပမာ** ⇨ အတိအကျခွဲဝေရန် မဖြစ်နိုင်သောအရာများကို ခန့်မှန်းချေဖြင့် ခွဲဝေပိုင်သည်ဟူသော အမိန့်။

### ⑥ **ကောင်လွစ်ဆွဟာဗီ** قَوْلُ الصَّحَابِيِّ

### ❖ **ဆွဟာဗာတို့၏ အမိန့်ထုတ်ပြန်ချက်များသည် နှစ်မျိုးရှိသည်။**

❶ ကိုယ်တိုင်အိဂ်ျသေဟားဒ် (ကုရ်အာန်နှင့်ဟဒီးဆ်မှ တိုက်ရိုက်အမိန့်ထုတ်ခြင်း) လုပ်ပြီး အမိန့်ထုတ်ရန်မဖြစ်နိုင်သော ကိစ္စရပ်တွင် အမိန့်ထုတ်ခြင်း။ ဤအမျိုးအစားတွင်ပါဝင်သော ဆွဟာဗာ၏အမိန့်သည် ဟနဖီပညာရှင်များထံတွင် ဟဒီးဆ်ကဲ့သို့ပင်ဖြစ်သည်ဟု ကောက်ချက်ချထားသည်။ အဘယ်ကြောင့်ဆိုသော် အိဂ်ျသေဟားဒ်နှင့်တင်ပြနိုင်သော အမိန့်မဟုတ်သည့်အတွက် တမန်တော်မြတ် ထံမှသိရှိခဲ့ပြီး ပြန်လည်တင်ပြခြင်းဖြစ်သည်ဟု သတ်မှတ်ရမည်ဖြစ်သောကြောင့်ဖြစ်သည်။ ထို့ကြောင့် ဤအမျိုးအစားတွင်ပါဝင်သော ဆွဟာဗာ၏ အမိန့်သည် ဟဒီးဆ်ကဲ့သို့ပင် အထောက်အထားဖြစ်သည်။

**ဥပမာ** ⇨ အွစ်မားန်ဗင်န်အဗိလ်အားဆ်ﷺထံမှလာရှိသော နေဖားစ်သွေး (ကလေးမွေးပြီးနောက်ဆင်းသည့်သွေး) ၏ အများဆုံးအချိန်ကာလသည် ရက် (၄၀) ဖြစ်သည့်အမိန့်။ ဤအမိန့်သည် အိဂ်ျသေဟားဒ်လုပ်၍ သိနိုင်သော အမိန့်မျိုးမဟုတ်ပေ။ ထို့ကြောင့် တမန်တော်မြတ်ﷺထံမှ ထိုဆွဟာဗာကသိရှိခဲ့ပြီး ပြန်လည်တင်ပြခြင်းဖြစ်သည်ဟုသတ်မှတ်ရမည်ဖြစ်သည်။

❷ ဆွဟာဗာ ﷺ တို့က အိဂ်ျသေဟားဒ်(ကုရ်အာန်နှင့်ဟဒီးဆ်မှ တိုက်ရိုက်အမိန့် ထုတ်ခြင်း) လုပ်ပြီး ထုတ်ပြန်သောအမိန့်များ။ ဤအမိန့်များသည် အောက်ပါစည်းကမ်းချက်များနှင့် ကိုက်ညီပါက ဟနဖီပညာရှင်များထံတွင် အထောက်အထား ဖြစ်မည်။

❶ ကုရ်အာန်နှင့်ဟဒီးဆ်တော်များနှင့် မဆန့်ကျင်ခြင်း။

❷ အခြားဆွဟာဗာများ၏ အဆိုများနှင့် မဆန့်ကျင်ခြင်း။

❸ အခြားဆွဟာဗာတစ်ဦးဦး၏ မတူညီသောအမိန့်များမရှိခြင်း။



# အခန်း ၃

## အမိန့်ပညတ်ချက်များကို ထုတ်ယူသည့်ဥပဒေများ

### ❖ အဓိပ္ပါယ်သတ်မှတ်ထားသည့်ရှုထောင့်အရ

- ❶ ခါးဆွ် اَلْخَاصُّ ❷ အားမ် اَلْعَامُّ ❸ မွရှ်သရက် اَلْمُشْتَرَكُ

### ❖ အဓိပ္ပါယ်ဖော်ဆောင်သည့်ရှုထောင့်အရ

- ❶ ဟကီကသ် اَلْحَقِيْقَةُ ❷ မဂျားဇ် اَلْمَجَازُ ❸ ဆွရီးဟ် اَلصَّرِيْحُ

❹ ကေနာယာ اَلْكِنَايَةُ

### ❖ အဓိပ္ပါယ်ပေါ်လွင်ထင်ရှားသည့်ရှုထောင့်အရ

- ❶ ဇွာဟိရ် اَلظَّاهِرُ ❷ နက်ဆွ် اَلنَّصُّ ❸ မုဖက်စ်စရ် اَلْمُفَسَّرُ

❹ မုဟ်ကမ် اَلْمُحْكَمُ

### ❖ အဓိပ္ပါယ်ပေါ်လွင်ထင်ရှားခြင်းမရှိသည့်ရှုထောင့်အရ

- ❶ ခဖိယ် اَلْخَفِيُّ ❷ မွတ်ရှ်ကိလ် اَلْمُشْكِلُ ❸ မွတ်ဂျ်မလ် اَلْمُجْمَلُ

❹ မုသရှာဗေ့ဟ် اَلْمُتَشَابِهُ

### ❖ အဓိပ္ပါယ်ညွှန်ပြသည့်ရှုထောင့်အရ

- ❶ ဖွအေဗာရသွန္နဆွ် عِبَارَةُ النَّصِّ ❷ အေရှာရသွန္နဆွ် اِشَارَةُ النَّصِّ

❸ ဒလာလသွန္နဆွ် دِلَالَةُ النَّصِّ ❹ အိက်သေသွာအွန္နဆွ် اِقْتِضَاءُ النَّصِّ

## အခန်း (၃)
## အမိန့်ပညတ်ချက်များကို ထုတ်ယူသည့်ဥပဒေများ
## (قَوَاعِدُ اسْتِنْبَاطِ الْأَحْكَامِ)

ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်တော်များတွင်လာရှိသော စကားရပ်များမှ အမိန့်ပညတ်ချက်များကို ထုတ်နုတ်ရာတွင် ဦးစွာပထမ ထိုစကားရပ်များရှိ စကားလုံးများ၏ အဓိပ္ပါယ်ဖော်ဆောင်သည့်ပုံစံများကို သိရှိနားလည်ရန် အရေးကြီးသည်။ ထိုသို့သိရှိနားလည်စေသည့် ဥပဒေများကို ဤအခန်းတွင် တင်ပြမည်ဖြစ်သည်။

➯ ထိုဥပဒေများကို ရှုထောင့် (၄) ခုဖြင့် အမျိုးအစားများ ခွဲထားသည်။

(၁) **အဓိပ္ပါယ် သတ်မှတ်ထားသည့် ရှုထောင့်အရ** စကားလုံးအမျိုးအစား (၃) မျိုးရှိသည်။ ❶ ခါးဆ္ဂ် اَلْخَاصُّ ❷ အားမ် اَلْعَامُّ ❸ မွရှ်သရက် اَلْمُشْتَرَكُ

❶ ခါးဆ္ဂ် اَلْخَاصُّ

အဓိပ္ပါယ်တစ်ခုထဲရှိသောစကားလုံးကိုခေါ်သည်။၎င်း၏အမိန့်မှာ သတ်မှတ်ထားသော အဓိပ္ပါယ်တစ်ခုအတွက်သာ အမိန့်သက်ရောက်မည်ဖြစ်သည်။

**ဥပမာ** ⇨ (سُوْرَةُ الْمَائِدَةِ:٨٩) فَمَنْ لَمْ يَجِدْ فَصِيَامُ ثَلَاثَةِ أَيَّامٍ အကယ်၍ အကြင်သူသည် မတတ်စွမ်းနိုင်ခဲ့လျှင် ရိုဇာဥပုသ် သုံးရက်စောင့်ထိန်းရမည်ဖြစ်သည်။

➯ ဤအာယသ်တော်တွင်လာရှိသည့် “သုံး” ဟူသော စကားလုံးသည် အဓိပ္ပါယ်တစ်ခုသာရှိသောစကားလုံးဖြစ်သည်။ထို့ကြောင့် ထိုအရေအတွက် အတိုင်းသာ အမိန့်ချမှတ်ရပြီး ထိုအရေအတွက်ထက်ပို၍ဖြစ်စေ လျော့၍ဖြစ်စေ သတ်မှတ်ပိုင်ခွင့်မရှိပေ။

❖ ဤအဓိပ္ပါယ်တစ်ခုထဲရှိသော စကားလုံးသည် ပုံစံ (၄) မျိုးထဲမှ တစ်မျိုးမျိုးဖြင့်ရှိသည်။ ၎င်းပုံစံများမှာ ...

### ❶ မွသ်ွလက် اَلْمُطْلَقُ

မည်သည့် ကန့်သတ်ချက်မှ မပါဘဲ အဓိပ္ပါယ်တစ်ခုကို ညွှန်ပြနေသော စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ မည်သည့်ကန့်သတ်ချက်မှမရှိသော ပုံစံဖြင့် အမိန့် သက်ရောက်မည်ဖြစ်သည်။ တစ်စုံတစ်ခုဖြင့် ကန့်သတ်ခွင့် မရှိပေ။

**ဥပမာ** ⇨ (سُوْرَةُ الْمُجَادَلَةِ:٣) فَتَحْرِيْرُ رَقَبَةٍ ကျွန်တစ်ယောက်သူကောင်းပြုရမည်။ မည်သည့်ကန့်သတ်ချက်မှမရှိဘဲ“ကျွန်” ဟူသောစကားလုံးကိုသာသုံးထားသောကြောင့် မွတ်စ်လင်မ်ကျွန်ဟူ၍ မွတ်စ်လင်မ်ဟူသော ကန့်သတ်ချက်ထည့်ခြင်း မပိုင်ပေ။

### ❷ မုကိုက်ယဒ် اَلْمُقَيَّدُ

ကန့်သတ်ချက်နှင့်အတူ အဓိပ္ပါယ်တစ်ခုကို ညွှန်ပြနေသော စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ သတ်မှတ်ထားသော ကန့်သတ်ချက်နှင့်အတူ အမိန့်သက်ရောက်မည်ဖြစ်သည်။

**ဥပမာ** ⇨ (سُوْرَةُ النِّسَاءِ:٩٢) وَمَنْ قَتَلَ مُؤْمِنًا خَطَأً فَتَحْرِيْرُ رَقَبَةٍ مُؤْمِنَةٍ အကြင်သူသည် မုအ်မင်န်တစ်ဦးကို မှားယွင်းပြီးသတ်မိပါက မုအ်မင်ကျွန်တစ်ဦးကို သူကောင်းပြုရန် တာဝန်ရှိသည်။ ဤအာယသ်တော်တွင် “မုအ်မင်န်” ဟူသော ကန့်သတ်ချက်ပါရှိသောကြောင့် မုအ်မင်န်ကျွန်ကို သူကောင်းပြုမှသာ တာဝန်ကျေမည်ဖြစ်သည်။

## ❸ အမ်ရ် اَلْأَمْرُ

လုပ်ဆောင်ရန်အရေးကြီးကြောင်း အမိန့်ပေးသောပုံစံဖြင့် တင်ပြထားသော စကားလုံးကိုခေါ်သည်။ယင်းနှင့်ဆန့်ကျင်ဘက်လုပ်ဆောင်ရန်အရေးမကြီးကြောင်း ညွှန်ပြသည့်အထောက်အထားမရှိသ၍ ပြုလုပ်ဆောင်ရွက်ရန်အရေးကြီး သည်။
**ဥပမာ** ⇨ (البقرة:١٨٥) فَمَنْ شَهِدَ مِنْكُمُ الشَّهْرَ فَلْيَصُمْهُ အသင်တို့ထဲမှ မည်သူမဆို ထို (ရမ်ဇာန်) လနှင့် ကြုံကြိုက်ခဲ့လျှင် ရိုဇာစောင့်ထိန်းလေကုန်။

## ❹ နဟ်ယ် اَلنَّهْيُ

လုပ်ရပ်ကို ရပ်တန့်ရန်တားမြစ်သောပုံစံဖြင့် ရှောင်ရှားရန် အမိန့်ပေးသော စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ ရှောင်ရှားရန်မလိုကြောင်း အထောက် အထားမရှိပါက ဟရာမ်ဖြစ်ကြောင်း သတ်မှတ်ရမည်ဖြစ်သည်။
**ဥပမာ** ⇨ (سُوْرَةُ الْأَنْعَامِ:١٥١) وَلَاتَقْتُلُوا النَّفْسَ الَّتِيْ حَرَّمَ اللّٰهُ إِلَّا بِالْحَقِّ ၎င်းပြင် အသင်တို့သည် အလ္လာဟ်ရှင်က (မသတ်ဖြတ်ရန်) တားမြစ်ထားသော အသက်ကို မသတ်ဖြတ်ကြလေနှင့်။ သို့သော် အစ္စလာမ့်တရားတော်နှင့်အညီ (သတ်ဖြတ်ပိုင်ခွင့် ခြွင်းချက်ရှိသည်)။

## ❺ အားမ် اَلْعَامُّ

တစ်ခုထက်ပိုသောအရာများကို ညွှန်ပြနေသည့် စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ စကားလုံးထဲတွင်ပါဝင်သော အရာအားလုံးအပေါ် အမိန့်သက် ရောက်မည်။
**ဥပမာ** ⇨ (سورة النساء:٢٣) حُرِّمَتْ عَلَيْكُمْ أُمَّهَاتُكُمْ အသင်တို့အပေါ် အသင်တို့၏ မိခင်များသည် (နေကာပြုရန်) ဟရာမ်အဖြစ် သတ်မှတ်ခြင်းခံထားရသည်။ ဤအာ ယသ်အရ မိခင်နှင့်အတူ အထက်ဆက်အဘွားများအားလုံးသည် နေကာပြုပိုင်ခွင့်

မရှိသော အမျိုးသမီးများစာရင်းတွင် ပါဝင်သွားကြသည်။ မိခင်များဆိုသည့် စကား လုံးထဲတွင် ထိုအမျိုးသမီးများအားလုံးပါဝင်နေသည့်အတွက်ဖြစ်သည်။

✍ **မှတ်ချက်** အားမ်စကားလုံးတွင်ပါဝင်သောအရာများမှ အချို့အရာများကို ကန့် ထုတ်ခြင်းမျိုးလည်းရှိသည်။ ထိုသို့ကန့်ထုတ်ခံရသော အရာများသည် အားမ်၏ အမိန့်တွင် မပါဝင်တော့ပေ။

**ဥပမာ** ⇨ (النور:٢) اَلزَّانِيَةُ وَالزَّانِيْ فَاجْلِدُوْا كُلَّ وَاحِدٍ مِنْهُمَا مِائَةَ جَلْدَةٍ တရားမဝင် ကာမ ကျူးလွန်သောမိန်းမနှင့် တရားမဝင်ကာမကျူးလွန်သောယောကျ်ားကို အသင်တို့ သည် သူတို့နှစ်ဦးထဲမှ တစ်ဦးစီအား ကြိမ်ဒဏ်အချက်ပေါင်း (၁၀၀) စီရိုက်ကြပါ။ ၎င်းအမိန့်သည် လွတ်လပ်သောအမျိုးသားနှင့် လွတ်လပ်သောအမျိုးသမီးတို့ အ တွက်သာဖြစ်သည်။ ကျွန်'နှင့် ကျွန်'မ တို့ကို အထက်ပါအမိန့်မှ ကန့်ထုတ်ထား သည်။ ထိုသို့ကန့်ထုတ်လိုက်သည့် အထောက်အထားမှာ ...
(سورة النساء:٢٥) فَعَلَيْهِنَّ نِصْفُ مَا عَلَى الْمُحْصَنَاتِ ထိုကျွန်မများအပေါ်တွင် (ချမှတ်ရ မည့်ပြစ်ဒဏ်သည်) လွတ်လပ်သောအမျိုးသမီးများအပေါ် ချမှတ်သောပြစ်ဒဏ်၏ တစ်ဝက်ဖြစ်သည်ဟူသော အာယသ်တော်ဖြစ်သည်။

### ❷ မွရှ်သရက် اَلْمُشْتَرَكُ

မတူညီသည့် အဓိပ္ပါယ်များကို ညွှန်ပြနေသော စကားလုံးကိုခေါ်သည်။ ၎င်း ၏အမိန့်မှာ အဓိပ္ပါယ်တစ်ခုကို ရည်ရွယ်သတ်မှတ်လိုက်ပါက ကျန်အဓိပ္ပါယ်များကို ရည်ရွယ်၍ မရတော့ပေ။

**ဥပမာ** ⇨ (سورة البقرة:٢٢٨) وَالْمُطَلَّقَاتُ يَتَرَبَّصْنَ بِأَنْفُسِهِنَّ ثَلَاثَةَ قُرُوْءٍ ၎င်းနောက် ကွာရှင်း ပြတ်စဲခြင်းခံရသောအမျိုးသမီးများသည်အချိန်ကာလသုံးခုအထိအိဒ်ဒဒ်စောင့်ဆိုင်း ခြင်းပြုကြရမည်။ قَرْءٌ သည် ရာသီပန်းပွင့်နေသောကာလနှင့် သန့်ရှင်းနေသော ကာလဟူသည့် အဓိပ္ပါယ်နှစ်ခုစလုံး ပါဝင်နေသော မွတ်ရှ်သရက် စကားလုံးဖြစ် သည်။ အဓိပ္ပါယ်တစ်ခုကို ယူလိုက်ပါက နောက်အဓိပ္ပါယ်ကို ယူ၍မရတော့ပေ။

Ⓙ **အဓိပ္ပါယ်ဖော်ဆောင်ခြင်း ရှုထောင့်အရ** စကားလုံးအမျိုးအစား(၄)မျိုးရှိသည်။

❶ ဟာကီကာသ် اَلْحَقِيْقَةُ ❷ မဂျားဇ် اَلْمَجَازُ ❸ ဆွရီးဟ် اَلصَّرِيْحُ

❹ ကေနာယာ اَلْكِنَايَةُ

❶ ဟာကီကာသ် اَلْحَقِيْقَةُ

မူရင်းအဓိပ္ပါယ်အတွက် အသုံးပြုသော စကားလုံးကို ခေါ်သည်။ ၎င်း၏ အမိန့်မှာ မူရင်းအဓိပ္ပါယ်အတွက် အမိန့်အတည်ဖြစ်မည်။

**ဥပမာ** ⇨ (سُوْرَةُ النِّسَاءِ:٢٣) حُرِّمَتْ عَلَيْكُمْ أُمَّهَاتُكُمْ وَبَنَاتُكُمْ အသင်တို့အပေါ် အသင်တို့၏ မိခင်များနှင့် အသင်တို့၏သမီးများသည် (နေကာပြုရန်) တားမြစ်ခြင်းခံထားရသည်။ တရားဝင်နေကာပြုထားခြင်းမရှိဘဲ မွေးဖွားလာသော သမီးသည်လည်း သမီးဟူသောစကားလုံးထဲတွင် ပါဝင်သောကြောင့် ၎င်းတားမြစ်ချက်ထဲတွင်ပါဝင်သွားသည်။

❷ မဂျားဇ် اَلْمَجَازُ

မူရင်းအဓိပ္ပါယ်အတွက် အသုံးမပြုဘဲ ပတ်သက်ဆက်နွယ်မှုတစ်ခုခုရှိသော ဆင့်ပွားအဓိပ္ပါယ်တစ်ခုအတွက် အသုံးပြုသော စကားလုံးကိုခေါ်သည်။ ၎င်း၏ အမိန့်မှာ မူရင်းအဓိပ္ပါယ်ယူရန်မဖြစ်နိုင်ပါက သို့မဟုတ် မူရင်းအဓိပ္ပါယ်ကို အသုံးမပြုသောစကားလုံးဖြစ်နေပါက ထိုဆင့်ပွားအဓိပ္ပါယ်အပေါ် အမိန့်သက်ရောက်မည်ဖြစ်သည်။

**ဥပမာ** ⇨ لَا يَأْكُلُ مِنْ هٰذِهِ الْقِدْرِ ဒီအိုးကမစားဟု ကျိန်ဆိုပါက အိုးထဲတွင်ရှိသော အရာကိုမစားရန်ကျိန်ဆိုခြင်းဖြစ်သည်ဟု သတ်မှတ်မည်ဖြစ်သည်။ အဘယ်ကြောင့် ဆိုသော် အိုးကိုစားသည်ဟူသော မူရင်းအဓိပ္ပါယ်ယူရန် မဖြစ်နိုင်သည့်အတွက် ဖြစ်သည်။

❸ ဆွရီးဟ် اَلصَّرِيْحُ

အဓိပ္ပါယ်ပေါ်လွင်ထင်ရှားသော စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ ထိုပေါ်လွင်ထင်ရှားသောအဓိပ္ပါယ်ကို ရည်ရွယ်ကြောင်းညွှန်ပြချက်တစ်စုံတရာ မလိုအပ်ဘဲ ထိုအဓိပ္ပါယ်အတိုင်း အမိန့်အတည်ဖြစ်မည်။

**ဥပမာ** ⇨ أَنْتِ طَالِقٌ ဟုဇနီးသည်ကိုပြောပါက ကွာရှင်းပြတ်စဲရန် ရည်ရွယ်ချက်ရှိသည်ဖြစ်စေ မရှိသည်ဖြစ်စေ ကွာရှင်းပြတ်စဲသွားမည်ဖြစ်သည်။

❹ ကေနာယာ اَلْكِنَايَةُ

ပေါ်လွင်ထင်ရှားသော မူရင်းပကတိအဓိပ္ပါယ်အတွက် အသုံးမပြုဘဲ သွယ်ဝိုက်သဏ္ဍာန်ယူအဓိပ္ပါယ်တစ်ခုအတွက် အသုံးပြုသော စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ ရည်ရွယ်ချက် သို့မဟုတ် ရည်ရွယ်ကြောင်းညွှန်ပြသော အခြေအနေတစ်ခုခုရှိမှသာ အဓိပ္ပါယ်အတည်ဖြစ်မည်။

**ဥပမာ** ⇨ ဇနီးသည်ကို ထွက်သွားလိုက်ဘယ်တော့မှပြန်မလာနဲ့ ဟုပြောပါက ကွာရှင်းပြတ်စဲရန်ရည်ရွယ်ချက်နှင့် ပြောဆိုခြင်းဖြစ်လျှင် သို့မဟုတ် ကွာရှင်းပြတ်စဲခြင်းကိုဆိုလိုကြောင်း ညွှန်ပြနေသည့် အခြေအနေတွင် ပြောဆိုခြင်းဖြစ်လျှင် ထိုစကားလုံးကြောင့် ကွာရှင်းပြတ်စဲသွားမည်ဖြစ်သည်။

**(၃) အဓိပ္ပါယ်ပေါ်လွင်ထင်ရှားခြင်းရှိ/မရှိ ရှုထောင့်အရ** စကားလုံးများကို အမျိုးအစား (၈) မျိုးခွဲနိုင်သည်။

❶ ဇွာဟိရ် اَلظَّاهِرُ ❷ နက်ဆွ် اَلنَّصُّ ❸ မုဖက်စ်စရ် اَلْمُفَسَّرُ
❹ မုဟ်ကမ် اَلْمُحْكَمُ ❺ ခဖီးယ် اَلْخَفِيُّ ❻ မွတ်ရှ်ကိလ် اَلْمُشْكِلُ
❼ မွတ်ဂျ်မလ် اَلْمُجْمَلُ ❽ မုသရှာဗဲဟ် اَلْمُتَشَابِهُ

■ အဓိပ္ပါယ်ပေါ်လွင်သည့်ရှုထောင့်အရစကားလုံးအမျိုးအစား(၄)မျိုးရှိသည်။

❶ ဇွာဟိရ် اَلظَّاهِرُ

ရှင်းပြရန်မလိုဘဲ ဆိုလိုသည့်အချက်ကို ရှင်းရှင်းလင်းလင်း နားလည်စေသည့် စကားလုံးကိုခေါ်သည်။ သို့သော် ထိုဆိုလိုချက်ကိုရည်ရွယ်ပြီး ထိုစကားကို တင်ပြထားခြင်းမဟုတ်ပေ။ ၎င်း၏အဓိပ္ပါယ်မှာ နားလည်ရသည့်ဆိုလိုချက်အတိုင်း လိုက်နာဆောင်ရွက်ရန် အရေးကြီးသည်။ သို့သော် ထိုအဓိပ္ပါယ်သည် အပြောင်းအလဲဖြစ်နိုင်ချေရှိသည်ဟု သတ်မှတ်ထားရမည်။

**ဥပမာ** ⇨ (سُوْرَةُ الْبَقَرَة:٢٧٥) أَحَلَّ اللّٰهُ الْبَيْعَ وَحَرَّمَ الرِّبَا အလ္လာဟ်ရှင်သည် အရောင်းအဝယ်ကို ခွင့်ပြုတော်မူပြီး အတိုးကို တားမြစ်ထားတော်မူခဲ့သည်။ ဤအာယသ်တွင် အရောင်းအဝယ်ပြုပိုင်ခြင်းနှင့် အတိုးဟာရာမ်ဖြစ်ကြောင်းကို ထင်ရှားစွာသိရသည်။ ထို့ကြောင့် ထိုအတိုင်းပင် အဓိပ္ပါယ်အတည်ဖြစ်မည်။ သို့သော် ထိုအဓိပ္ပါယ်ကိုတင်ပြရန်အတွက် အထက်ပါအာယသ်ကို ချပေးထားခြင်းမဟုတ်ပေ။ အရောင်းအဝယ်နှင့် အတိုးကြားရှိကွာခြားချက်ကို တင်ပြရန် အထက်ပါအာယသ်ကို ချပေးထားခြင်းဖြစ်သည်။

❷ နက်ဆွဲ اَلنَّصُّ

ဆိုလိုသည့်အချက်ကို ထင်ရှားစွာသိရသည့် စကားလုံးကိုခေါ်သည်။ ၎င်းဆိုလိုချက်အတွက်ရည်ရွယ်ပြီး ထိုစကားကို တင်ပြထားခြင်းဖြစ်သည်။ ၎င်း၏အမိန့်မှာ အပြောင်းအလဲဖြစ်နိုင်ချေရှိသည်ဟုမှတ်ယူပြီး လိုက်နာကျင့်သုံးရန် အရေးကြီးသည်။

**ဥပမာ** ⇨ (سُوْرَةُ الْبَقَرَةِ:١٨٣) كُتِبَ عَلَيْكُمُ الصِّيَامُ အသင်တို့အပေါ် ရိုဇာဥပုဒ်စောင့်ထိန်းရန် ပြဋ္ဌာန်းထားတော်မူသည်။ ဤအာယသ်အရ ရိုဇာ၏အမိန့်ပြဋ္ဌာန်းချက်ကို ထင်ရှားစွာသိရသည်။ သို့သာမက ထိုအမိန့်ပြဋ္ဌာန်းချက်ကို တင်ပြရန်အတွက် ထိုအာယသ်ကို ချပေးထားခြင်းဖြစ်သည်။

➯ ဇွာဟိရ်နှင့် နက်ဆွဲအကြား ကွာခြားချက်မှာ နက်ဆွဲသည် ဆိုလိုချက်ကိုညွှန်ပြရာတွင် ဇွာဟိရ်ထက်ပို၍ ထင်ရှားသည်။ ထို့ကြောင့် ထိုနှစ်ခုဆန့်ကျင်သည့်အခါ နက်ဆွဲကိုဦးစားပေးရမည်။

❸ မုဖက်စ်စရ် اَلْمُفَسَّرُ

တင်ပြသူ၏ရှင်းလင်းချက်နှင့်တကွ ဆိုလိုသည့်အချက်ကိုထင်ရှားစွာ သိရသည့် စကားလုံးကိုခေါ်သည်။ မည်သည့်အပြောင်းအလဲမှ ဖြစ်နိုင်ချေမရှိတော့ပေ။ ၎င်း၏အမိန့်မှာ မည်သည့်အပြောင်းအလဲမှဖြစ်နိုင်ချေမရှိတော့ဘဲ လက်တွေ့လိုက်နာကျင့်သုံးရန် အရေးကြီးသည်။ တမန်တော်မြတ် ﷺ သက်ရှိထင်ရှားရှိနေစဉ်တွင်သာ အပြောင်းအလဲဖြစ်နိုင်ပြီး တမန်တော်မြတ်ﷺမရှိတော့သည့်နောက်ပိုင်းတွင် အပြောင်းအလဲမဖြစ်နိုင်တော့ပေ။

**ဥပမာ** ⇨ ( سُوْرَةُ النُّوْرِ:٤) يَرْمُوْنَ الْمُحْصَنَاتِ ثُمَّ لَمْ يَأْتُوْا بِأَرْبَعَةِ شُهَدَاءَ فَاجْلِدُوْهُمْ ثَمَنِيْنَ جَلْدَةً

ထို့နောက် အပြစ်ကင်းသည့်အမျိုးသမီးများအား (တရားမဝင်ကာမကျူးလွန်သည်ဟု) စွပ်စွဲကြပြီး သက်သေလေးယောက်မတင်ပြနိုင်သူများကို အသင်တို့သည် ကြိမ်ဒဏ်အချက်ပေါင်းရှစ်ဆယ်စီရိုက်ကြပါ။ ဤအာယသ်တွင် ရှစ်ဆယ်ဟူသော စကားလုံးသည် ကြိမ်ဒဏ်နှင့်ပတ်သတ်ပြီး ရှင်းပြထားသော မုဖက်စ်စရ် စကားလုံး ဖြစ်သည်။

❻ မုဟ်ကမ် اَلْمُحْكَمُ

မည်သည့်အပြောင်းအလဲမှ မဝင်ရောက်နိုင်တော့သည့် အခိုင်မာဆုံးအဆင့်တွင်ရှိကြောင်း ညွှန်ပြနေသော စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ မည်သည့်အပြောင်းအလဲကိုမှလက်မခံဘဲ လိုက်နာကျင့်သုံးရန်အရေးကြီးသည်။

**ဥပမာ** ⇨ အလ္လာဟ်ရှင်၏ဂုဏ်ရည်တော်များကိုဖော်ပြသည့် အာယသ်များ။

■ အဓိပ္ပါယ်ပေါ်လွင်ခြင်းမရှိသည့်ရှုထောင့်အရစကားလုံးအမျိုးအစား၄မျိုးရှိသည်။

❶ ခဖီးယ် اَلْخَفِيُّ

အဓိပ္ပါယ်ကျယ်ပြန့်သည့်အတွက် ဆိုလိုသည့်အချက် ဖုံးကွယ်နေသော စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ ဆိုလိုသည့်အချက်ကို အတိအကျသိရသည်အထိ စဉ်းစားဆင်ခြင်ရန် အရေးကြီးသည်။

**ဥပမာ** ⇨ (سُوْرَةُ الْمَائِدَةِ:٣٨) اَلسَّارِقُ وَالسَّارِقَةُ فَاقْطَعُوْا أَيْدِيَهُمَا အသင်တို့သည် ခိုးသူနှင့် ခိုးသူမတို့အား ၎င်းတို့နှစ်ဦးစလုံး၏လက်များကို (လက်ကောက်ဝတ်မှ) ဖြတ်ကြပါ။ ဤအာယသ်တွင် ထိန်းသိမ်းသူမရှိသည့် သေသူ၏ကဖန်ကို ခိုးယူသူသည် အပြစ်ပေးခံရမည့် ခိုးသူထဲတွင်ပါဝင်ခြင်းရှိ မရှိနှင့် ပတ်သတ်၍ အဓိပ္ပါယ်ဖုံးကွယ်နေသည်။ ခိုးခြင်းဟူသည် ထိန်းသိမ်းထားသောပစ္စည်းကို ပိုင်ရှင်မသိအောင် ယူခြင်းကို ဆိုလိုသောကြောင့် ဖြစ်သည်။ ကဖန်သည် ထိန်းသိမ်းသူမဲ့ပစ္စည်းဖြစ်သည်။

**❶ မွရ်ကိလ်** اَلْمُشْكِلُ

ပုံစံတူသည့်အရာများပါဝင်နေသည့်အတွက် ဆိုလိုသည့်အဓိပ္ပါယ် ရောထွေးသွားသည့် စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ ပုံစံတူများနှင့် ကွဲပြားခြားနားသွားစေရန်အတွက် စဉ်းစားဆင်ခြင်ပြီး အဓိပ္ပါယ်သတ်မှတ်ရန်အရေးကြီးသည်။

**ဥပမာ** ⇨ "ခေါင်း"မစားပါဟူ၍ ကျိန်ဆိုပါက ထိုကျိန်ဆိုမှုထဲတွင် ငါး "ခေါင်း" နှင့်စာကလေးခေါင်းများ ပါဝင်ခြင်းရှိ/မရှိသည် မွရ်ကိလ်ဖြစ်သည်။ နွားခေါင်းနှင့်ဆိတ်ခေါင်းတို့သည် ပေါ်လွင်သော အဓိပ္ပါယ်များဖြစ်သည်။

**❷ မွဂ်ျမလ်** اَلْمُجْمَلُ

တင်ပြပြောဆိုသူက ရှင်းပြမှသာလျှင် ဆိုလိုသည့်အဓိပ္ပါယ်ကို သိနိုင်မည်ဖြစ်သော ပုံစံအမျိုးမျိုးရောထွေးပါဝင်နေသည့် စကားလုံးကိုခေါ်သည်။ ၎င်း၏အမိန့်မှာ တင်ပြပြောဆိုသူ၏ ရှင်းလင်းချက်ဖြင့်သာ လက်တွေ့ကျင့်သုံးရန် အရေးကြီးသည်။

**ဥပမာ** ⇨ (سُوْرَةُ الْبَقَرَة:٢٧٥) وَحَرَّمَ الرِّبَوا (အလ္လာဟ်ရှင်သည်) အတိုးကို ဟရာမ်အဖြစ်သတ်မှတ်တော်မူခဲ့သည်။ ဤအာယသ်တွင်ပါဝင်သော အတိုးနှင့်ပတ်သတ်၍ တမန်တော်မြတ် ﷺ က ဟဒီးဆ်တော်တစ်ပုဒ်တွင် ရှင်းပြထားသည်။ အတိုးဟူသော စကားလုံးသည် ပုံစံအမျိုးမျိုးပါဝင်နေသည့်မွဂ်ျမလ်စကားလုံးဖြစ်သည်။ ထို့ကြောင့် တမန်တော်မြတ် ﷺ ၏ ရှင်းပြချက်အတိုင်း သတ်မှတ်ရမည်ဖြစ်သည်။

**❸ မုသရှာဗေ့ဟ်** اَلْمُتَشَابِهُ

မွဂ်ျမလ်ထက်ပို၍ အဓိပ္ပါယ်ရှုပ်ထွေးသည့် စကားလုံးကိုခေါ်သည်။ ၎င်း၏ဆိုလိုချက်ကို တင်ပြသူသာ အတိအကျသိနိုင်မည်ဖြစ်သည်။ ၎င်း၏အမိန့်မှာ တင်ပြထားသည့်အတိုင်းသာ ယုံကြည်ချက်ထားရမည်ဖြစ်သည်။

**ဥပမာ** ⇨ စူရာဟ်အချို့၏အစတွင်လာရှိသော اَلْحُرُوْفُ الْمُقَطَّعَةُ များ။

⑥ **အဓိပ္ပါယ်ညွှန်ပြသည့်ရှုထောင့်အရ** စကားလုံးအမျိုးအစား (၄) မျိုးရှိသည်။

❶ အေဗာရသွနွဆွ် عِبَارَةُ النَّصِّ ❷ အေရှာရသွနွဆွ် إِشَارَةُ النَّصِّ
❸ ဒလာလသွနွဆွ် دَلَالَةُ النَّصِّ ❹ အိကံသေသွာအွနွဆွ် اِقْتِضَاءُ النَّصِّ

❶ **အေဗာရသွနွဆွ်** عِبَارَةُ النَّصِّ

စကားရပ်တစ်ခု၏ ရည်ရွယ်ထားသော အဓိပ္ပါယ်ကိုခေါ်သည်။ ၎င်း၏အမိန့်မှာ ထိုရည်ရွယ်ထားသော အဓိပ္ပါယ်အတိုင်း လုပ်ဆောင်ရန်အရေးကြီးသည်။

**ဥပမာ** ⇨ (١٥١:سُوْرَةُ الْأَنْعَامِ) وَلَاتَقْتُلُوْا النَّفْسَ الَّتِيْ حَرَّمَ اللهُ إِلَّا بِالْحَقِّ ၎င်းပြင် အသင်တို့သည် အလ္လာဟ်ရှင်မြတ်က (မသတ်ဖြတ်ရန်) တားမြစ်ထားသောအသက်ကို မသတ်ဖြတ်ကြလေနှင့်။ သို့သော် တရားတော်နှင့်အညီ (သတ်ဖြတ်ပိုင်ခွင့်) ရှိသည်။ ဤအာယသ်သည် သတ်ဖြတ်ခြင်းဆိုသည့်အမှုကို တားမြစ်ရန်အတွက် ကျရောက်လာသော အာယသ်ဖြစ်သည်။

❷ **အေရှာရသွနွဆွ်** إِشَارَةُ النَّصِّ

စကားရပ်မှ နားလည်သိရှိရသော အချက်ကိုခေါ်သည်။ သို့သော် ထိုစကားသည် ထိုအချက်ကိုရည်ရွယ်ပြီး တင်ပြထားခြင်း မဟုတ်ပေ။ ၎င်း၏အမိန့်မှာ လုပ်ဆောင်ရန်အရေးကြီးသည်။ ဤအေရှာရသွနွဆွ်သည် အေဗာရသွနွဆွ်နှင့် ဆန့်ကျင်နေလျှင် အေဗာရသွနွဆွ်ကို ဦးစားပေးရမည်။

**ဥပမာ** ⇨ (١٧٨:سُوْرَةُ الْبَقَرَةِ) فَمَنْ عُفِيَ لَه مِنْ أَخِيْهِ شَيْءٌ အသတ်ခံရသူ၏ အုပ်ထိန်းသူက သတ်သူကို ခွင့်လွှတ်ပါက သတ်သူက အသက်လျော်ကြေးပေးရန် တာဝန်ရှိကြောင်း ညွှန်ပြသောအာယသ်ဖြစ်သည်။ ဤအာယသ်တွင် သူ (သတ်ဖြတ်သူ) ၏ ညီနောင်ဘက်မှ ခွင့်လွှတ်ခဲ့လျှင်ဟူ၍ အမိန့်ရှိထားသောကြောင့် သတ်ဖြတ်သူသည် သတ်ဖြတ်ခြင်းကြောင့်အီမာန်ပျက်သွားခြင်းမရှိကြောင်းသိရသည်။ အဘယ်ကြောင့်ဆိုသော် မွတ်စ်လင်မ်အချင်းချင်းသာ ညီနောင်ဖြစ်နိုင်သောကြောင့်ဖြစ်သည်။ ဤအ

ချက်ကိုတင်ပြရန်အတွက် အာယသ်ကိုချပေးထားခြင်းမဟုတ်သော်လည်း အာယသ်မှတဆင့်ဤအချက်ကို သိရခြင်းဖြစ်သည်။

### ❸ ဒလာလသွနွဆွ် دَلَالَةُ النَّصِ

ချမှတ်ထားသောအမိန့်၏ အကြောင်းအရင်းကို ဘာသာစကားနားလည်မှုအရ သိရခြင်းကိုခေါ်သည်။ အိဂျ်သေဟားဒ် (အမိန့်ထုတ်နှုတ်နိုင်စွမ်း) အရ သိရခြင်းမဟုတ်ပေ။ ၎င်း၏အမိန့်မှာ ထိုအကြောင်းအရင်းရှိသော ကျန်အရာများအားလုံးအပေါ် အမိန့်သက်ရောက်မည်ဖြစ်သည်။

**ဥပမာ** ⇨ (سُوْرَةُ الْإِسْرَاءِ:٢٣) فَلَا تَقُلْ لَهُمَا أُفٍّ အသင်သည် ထို(မိဘ)နှစ်ပါးအား“ အို ” ဟုပင်မပြောလေနှင့်။ ဤအာယသ်တွင် မိဘနှစ်ပါးကို စိတ်ဒုက္ခဖြစ်စေသောကြောင့် အို ဟုပင်ပြောဆိုခြင်းကို တားမြစ်ထားခြင်းဖြစ်သည်။ ထို့ကြောင့် မိဘနှစ်ပါးကို စိတ်ဒုက္ခဖြစ်စေမည့် တခြားသောလုပ်ရပ်များသည်လည်း တားမြစ်မှုထဲတွင် ပါဝင်သွားသည်။

### ❹ အိက်သေသွာအွနွဆွ် اِقْتِضَاءُ النَّصِّ

တင်ပြချက်တွင် ထည့်သွင်းမထားသော်လည်း ထိုတင်ပြချက် အထမြောက်ရန် မဖြစ်မနေ လိုအပ်သောစာသားကို ခေါ်သည်။ ၎င်း၏အမိန့်မှာ လိုအပ်ချက်အရ သတ်မှတ်ရခြင်းဖြစ်သည့်အတွက် လိုအပ်သည့်အတိုင်းအတာသာ စာသား သတ်မှတ်ရမည်ဖြစ်သည်။

**ဥပမာ** ⇨ (سُوْرَةُ النِّسَاءِ:٢٣) حُرِّمَتْ عَلَيْكُمْ أُمَّهَاتُكُمْ وَبَنَاتُكُمْ အသင်တို့အပေါ်အသင်တို့၏ မိခင်များနှင့်အသင်တို့၏သမီးများသည်ဟရာမ်အဖြစ်သတ်မှတ်ခြင်းခံထားရသည်။ ဤအာယသ်တွင် တင်ပြထားသော ဟရာမ်အဖြစ် သတ်မှတ်ခြင်းခံထားရသည် ဟူသောအချက်အတည်ဖြစ်ရန် နေကာဟ်ပြုခြင်းဟူသောစာသားကို ထည့်သွင်းရမည်။ နေကာဟ်ပြုခြင်း ဟရာမ်ဖြစ်သည်ဟုဆိုလိုခြင်းဖြစ်သည်။

**အဓိပ္ပါယ်သတ်မှတ်ထားသည့်ရှုထောင့်အရ စကားလုံးအမျိုးအစားများ**




**အဓိပ္ပါယ်သတ်မှတ်ထားသည့်ရှုထောင့်အရ စကားလုံးအမျိုးအစားများ**




**အဓိပ္ပါယ်သတ်မှတ်ထားသည့်ရှုထောင့်အရ စကားလုံးအမျိုးအစားများ**



### ☐ အဓိပ္ပါယ်သတ်မှတ်ထားသည့်ရှု့ထောင့်အရ စကားလုံးအမျိုးအစားများ




### ☐ အဓိပ္ပါယ်သတ်မှတ်ထားသည့်ရှု့ထောင့်အရ စကားလုံးအမျိုးအစားများ






## အခန်း ၆

## ပြဋ္ဌာန်းထားသောအမိန့်ပညတ်ချက်တို့၏ရည်ရွယ်ချက်များနှင့် အဆင့်အတန်းများ

| | |
|---|---|
| 1 | အရေးကြီးသောအချက်များ اَلضَّرُوْرِيَّاتُ |
| 2 | လိုအပ်ချက်များ اَلْحَاجِيَّاتُ |
| 3 | ပိုမိုကောင်းမွန်စေသောအချက်များ اَلتَّحْسِيْنَاتُ |
| final | အကျိုးရလဒ်များအတွက်ချမှတ်ထားသော ဥပဒေအချို့ |



## အခန်း ၆

# ပြဋ္ဌာန်းထားသောအမိန့်ပညတ်ချက်တို့၏ရည်ရွယ်ချက်ပုံအဆင့်ဆင့်
## مَقَاصِدُ الْأَحْكَامِ وَمَرَاتِبُهَا

ရှရီအသ်တရားတော်က ပြဋ္ဌာန်းထားသောအမိန့်ပညတ်ချက်တို့သည် လူသားတို့ ကောင်းကျိုးအတွက် ဖြစ်သည်။ ထိုကောင်းကျိုးများကို အမျိုးအစား (၃) မျိုးခွဲနိုင်သည်။

❶ အရေးကြီးသောအချက်များ اَلضَّرُوْرِيَّاتُ

❷ လိုအပ်ချက်များ اَلْحَاجِيَّاتُ

❸ ပိုမိုကောင်းမွန်စေသောအချက်များ اَلتَّحْسِيْنَاتُ

❶ အရေးကြီးသောအချက်များ اَلضَّرُوْرِيَّاتُ

လူတို့၏ဘဝနှင့် လူ့အဖွဲ့အစည်းတစ်ရပ် စနစ်တကျ လည်ပတ်နိုင်ရေး အတွက် မဖြစ်မနေစောင့်ရှောက်ရန်လိုအပ်သော အရေးကြီးသည့်အချက်များကို ခေါ်သည်။ ထိုအချက်များသည် အမျိုးအစား (၅) ခုပေါ် အခြေခံထားသည်။ ၎င်းတို့မှာ ⓵ ဘာသာရေး ⓶ အသက် ⓷ အသိဉာဏ် ⓸ ဂုဏ်သိက္ခာ ⓹ ပစ္စည်းဥစ္စာ

⓵ **ဘာသာရေး**ဆိုင်ရာ ကောင်းကျိုးများအတွက် ယုံကြည်ချက်ပိုင်းဆိုင်ရာ အချက်များ၊ ခဝပ်ကိုးကွယ်ခြင်းဆိုင်ရာအမိန့်များကို ပြဋ္ဌာန်းထားသည်။ သာသနာကို ထိန်းသိမ်းစောင့်ရှောက်ရန်အတွက် သာသနာ့ဖိတ်ခေါ်ရေးလုပ်ငန်းများ၊ သာသနာပျက်သူများနှင့်ပတ်သတ်သည့် ဥပဒေများပြဋ္ဌာန်းထားသည်။

၂ **အသက်**ရှင်သန်ရေးနှင့်ဆိုင်သော ကောင်းကျိုးများရရှိရန် မျိုးဆက်ကျန်ရှိရေးအတွက် လက်ထပ်ထိမ်းမြားခြင်းဆိုင်ရာ အမိန့်များ၊ သတ်ဖြတ်ခြင်းအတွက် ပြစ်ဒဏ်များပါဝင်သည်။

၃ **အသိဉာဏ်**ဆိုင်ရာ ကောင်းကျိုးများအတွက် အရက်သေစာနှင့် မူးယစ်ဆေးဝါးဆိုင်ရာ ဥပဒေများသတ်မှတ်ထားသည်။

၄ **ဂုဏ်သိက္ခာ**ဆိုင်ရာ ထိပါးမှုများမှ အကာအကွယ်ပေးရန်အတွက် မတရားစွပ်စွဲမှုအပေါ် ပြစ်ဒဏ်များချမှတ်ခြင်း၊ တရားမဝင်ကာမကျူးလွန်ခြင်းအတွက် ပြစ်ဒဏ်များ သတ်မှတ်ထားသည်။

၅ **ခနဥစ္စာ**ငွေကြေးဆိုင်ရာ ကောင်းကျိုးများအတွက် စီးပွားရေးနှင့်သက်ဆိုင်သော အမိန့်ပညတ်ချက်များ၊ ပစ္စည်းဥစ္စာထိန်းသိမ်းရေးအတွက် သူတစ်ပါး၏ပစ္စည်းဥစ္စာကို ခိုးယူခြင်းနှင့်ပတ်သတ်ပြီး ပြစ်ဒဏ်များ သတ်မှတ်ထားသည်။

### ❷ လိုအပ်ချက်များ اَلْحَاجِيَّاتُ

မရှိမဖြစ် အရေးကြီးသောအချက်များမဟုတ်ဘဲ အကယ်၍မရှိပါက အခက်အခဲဖြစ်နိုင်သော အချက်များကိုခေါ်သည်။
**ဥပမာ** ⇨ အခက်အခဲဖြစ်နိုင်သော အခြေအနေများတွင် ဆုံးရှုံးနစ်နာမှုများကို လျှော့ပါးသက်သာစေရန် ဖြေလျှော့ပေးထားသော ခဝပ်ကိုးကွယ်မှုဆိုင်ရာ အမိန့်များ။

### ❸ ပိုမိုကောင်းမွန်စေသောအချက်များ اَلتَّحْسِيْنَات

ကောင်းမွန်သောစာရိတ္တများနှင့် ယဉ်ကျေးမှုအဆင့်အတန်းမြင့်လာစေရန် သတ်မှတ်ပြဋ္ဌာန်းပေးထားသော အချက်များကိုခေါ်သည်။
**ဥပမာ** ⇨ ကောင်းမှုကောင်းရာများကို ကျင့်ဆောင်ခိုင်းပြီး အလ္လာဟ်ရှင်နှင့် နီးကပ်မှုရရှိစေခြင်း၊ လူမှုဆက်ဆံရေးဆိုင်ရာ လိုက်နာဖွယ်အချက်များ။




➯ အထက်ပါ အမျိုးအစား(၃) ခုကို အစဉ်လိုက် ဦးစားပေးရမည်။ အရေးကြီးသော အချက်များကို ထိခိုက်နိုင်ပါက လိုအပ်ချက်အဆင့်ရှိသောအရာများကို စွန့်လွှတ်ရမည်။ အရေးကြီးသောအချက်များနှင့် လိုအပ်ချက်များကို ထိခိုက်နိုင်ပါက ပိုမိုကောင်းမွန်စေသောအချက်များကို စွန့်လွှတ်ရမည်။

**ဥပမာ** ⇨ အသက်ရှင်သန်နိုင်ရန်အတွက် ကုသမှုပြုရန် လိုအပ်ချက်အရ အရှက်အင်္ဂါကိုဖော်ပိုင်ခွင့်ရှိသည်။ အသက်ရှင်နိုင်ရန် ဆေးကုသမှုပြုရာတွင် မဖြစ်မနေအသုံးပြုရန် လိုအပ်လာပါက တားမြစ်ထားသောအရာများကို သုံးစွဲခွင့်ရှိသည်။

## အကျိုးရလဒ်များအတွက် ချမှတ်ထားသော ဥပဒေအချို့

ထိုကဲ့သို့ အရေးကြီးသည့်အချက်များ၊ လိုအပ်သောအချက်များ၊ ပိုမိုကောင်းမွန်စေသည့်အချက်များအပေါ် အခြေခံ၍ အစ္စလာမ့်ဥပဒေပညာရှင်များက ဥပဒေများကို ချမှတ်ထားကြသည်။ ထိုဥပဒေများအနက်မှ ဥပဒေအချို့ကို တင်ပြပါမည်။




ဤဥပဒေကိုအခြေခံ၍ ဝယ်ယူထားသော ပစ္စည်းတွင် အပြစ်အနာအဆာတွေ့ပါက အရောင်းအဝယ်ကို ဖျက်သိမ်းခွင့်ပြုထားသည်။

ဤဥပဒေကိုအခြေခံ၍ ခိုးသူကို လက်ဖြတ်ခြင်း၊ သတ်ဖြတ်သူကို အသေစားသေစေသည့် အပြစ်ပေးခြင်းများ သတ်မှတ်ပြဋ္ဌာန်းထားသည်။



ဤဥပဒေကိုအခြေခံ၍ သန့်ပြန့်စင်ကြယ်မှု ရယူရန် အခက်အခဲရှိသော အချိန်တွင် မသန့်သောအခြေအနေနှင့် နမားဇ်ဝတ်ပြုခြင်းကို ခွင့်ပြုပေးထားသည်။ နမားဇ်လွတ်သွားခြင်းသည် ဆိုးကျိုးပိုများသည့်အတွက်ဖြစ်သည်။

ဤဥပဒေကိုအခြေခံ၍ အကြပ်အတည်းကြုံလာရချိန်တွင် တားမြစ်ထားသောအရာများကို လိုအပ်သည်ခန့် အသုံးပြုခွင့်ပေးထားသည်။

**ဥပမာ** ⇨ သေလုနီးပါးအခြေအနေဖြစ်နေချိန်တွင် အသက်ဆက်ရန်အတွက် ဝက်သားသာရှိပါက အသက်ဆက်နိုင်မည့်အတိုင်းအတာ စားသုံးခွင့်ပေးထားသည်။

ဤဥပဒေကိုအခြေခံ၍ ဖျားနာနေသောအချိန်နှင့် ခရီးထွက်နေသောအချိန်များတွင် ရမ်ဇာန်လ၏ရိုဇာကို စွန့်လွှတ်ခွင့်ပေးထားခြင်းဖြစ်သည်။



ဤဥပဒေအရ တားမြစ်ထားသောအရာကို လိုအပ်ချက်အရ သုံးစွဲခွင့်ပေးသော အခြေအနေတွင် လိုအပ်သည့်အတိုင်းအတာသာ သုံးစွဲခွင့်ပေးသည်။
**ဥပမာ** ⇨ သေလုနီးပါးအခြေအနေဖြစ်နေချိန်တွင် အသက်ဆက်ရန်အတွက် ဝက်သားသာရှိပါက အသက်ဆက်နိုင်မည့်အတိုင်းအတာ စားသုံးခွင့်ပေးထားသည်။

ဤဥပဒေအရ ကဗ်လာဘက်ကို အတိအကျမသိရသော အခြေအနေတွင် အားသာသောထင်မြင်ချက်နှင့်အညီ ကဗ်လာဘက်ကို သတ်မှတ်ခွင့်ပေးထားခြင်းဖြစ်သည်။



အခန်း ၅

**အမိန့်ပညတ်ချက်များပြဋ္ဌာန်းပုံသမိုင်း**

| | |
|---|---|
| **ပထမခေတ်** | • ၂၃ နှစ် |
| **ဒုတိယခေတ်** | • ဟိဂျ်ရီ (၁၁) ခုနှစ်မှ ဟိဂျ်ရီ (၁၀၀) ခုနှစ်ခန့်အထိ နှစ်ပေါင်း (၉၀) |
| **တတိယခေတ်** | • ဟိဂျ်ရီ (၁၀၀) ခုနှစ်မှ ဟိဂျ်ရီ (၃၅၀) ခုနှစ်အထိ နှစ်ပေါင်း (၂၅၀) |
| **စတုတ္ထခေတ်** | • ဟိဂျ်ရီ (၄၀၀) ခုနှစ်ဝန်းကျင်မှ လက်ရှိခေတ်ကာလအထိ) |

# အခန်း (၅)
## အမိန့်ပညတ်ချက်များပြဋ္ဌာန်းပုံသမိုင်းအကျဉ်း
## خُلَاصَةُ تَارِيْخِ التَّشْرِيْعِ الْإِسْلَامِيِّ

အမိန့်ပညတ်ချက်များပြဋ္ဌာန်းပုံသမိုင်းကို အဆင့် (၄) ဆင့်ခွဲနိုင်သည်။

### (၁) ပထမခေတ်

နဗီဖြစ်ပြီးနောက် တမန်တော်မြတ်ﷺသက်ရှိထင်ရှားရှိနေသည့် အချိန်ကာလ။ (၂၃) နှစ်။

ဤခေတ်တွင်တမန်တော်မြတ်ﷺက ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်တော်များမှတဆင့် အမိန့်ပညတ်ချက်များကို ပြဋ္ဌာန်းသည်။ ထို့ကြောင့် ဤခေတ်သည် အမိန့်ပညတ်ချက်များ၏ မူလအရင်းအမြစ်များဖြစ်သည့် ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်တော်များဖြစ်ပေါ်လာခဲ့သော အရေးအပါဆုံးပထမခေတ်ဖြစ်သည်။

### (၂) ဒုတိယခေတ်

ဆွဟာဗာများ رضي الله عنهم ခေတ်ကာလ။ တမန်တော်မြတ်ﷺကွယ်လွန်ပြီးချိန် ဟိဂျ်ရီ (၁၁) ခုနှစ်မှ ဟိဂျ်ရီ (၁၀၁) ခုနှစ်ခန့်အထိ နှစ်ပေါင်း (၉၀)။

ဤခေတ်တွင် ပညာရှင်ဆွဟာဗာ رضي الله عنهم ကြီးများက တမန်တော်မြတ် ﷺ ၏ ဟဒီးဆ်တော်များနှင့် ကုရ်အာန်ကျမ်းလာအမိန့်ပညတ်ချက်များကို ပြန်လည်ပို့ချခြင်းနှင့်အတူ အသစ်ပေါ်ပေါက်လာသော ကိစ္စရပ်များ၏ အမိန့်ပညတ်ချက်များကို မိမိတို့၏ အိဂျ်သေဟားဒ်နှင့် ကုရ်အာန်ကျမ်းမြတ်နှင့် ဟဒီးဆ်တော်များကို အခြေခံ၍ ထုတ်နှုတ်ပြဋ္ဌာန်းခဲ့ကြသည်။ ထို့ကြောင့် ဤခေတ်တွင် အမိန့်ပညတ်ချက်များကို ပြဋ္ဌာန်းခြင်းသည် ထိုပညာရှင်ဆွဟာဗာ ကြီးများ၏လက်ဝယ်တွင် ရှိခဲ့သည်။

ထိုကဲ့သို့ဓမ္မသတ်များထုတ်ပြန်နိုင်စွမ်းရှိသော ပညာရှင်ဆွဟာဗာကြီးများ رضي الله عنهم ၏ အရေအတွက်သည် ၁၃၀ ကျော်ခန့်ရှိခဲ့သည်။ အများမွတ်စ်လင်မ်တို့က လိုအပ်သော ဓမ္မသတ်များကို ထိုဆွဟာဗာကြီးများထံ မေးမြန်းခဲ့ကြသည်။ ဤခေတ်





တွင် ကုရ်အာန်ကျမ်းမြတ်ကို ရေးသားမှတ်တမ်းတင်ခဲ့သည်။ သို့သော် ဟဒီးဆ်တော်များကို ရေးသားမှတ်တမ်းတင်ခြင်း မရှိသေးပေ။ နေရာဒေသအသီးသီးတွင် ပြန့်နှံ့နေထိုင်ကြသော ပညာရှင်ဆွဟာဗာ ﷺ များ၏ အိဂ်ျသေဟားဒ်ဖြင့် ပြဋ္ဌာန်းခဲ့သော အမိန့်ပညတ်ချက်များတွင် အကွဲအလွဲများရှိခဲ့သည်။

## ③ တတိယခေတ်

အမိန့်ပညတ်ချက်များကို ထုတ်နှုတ်နိုင်စွမ်းရှိသော မုဂ်ျသဟီးဒ်အဆင့်ရှိသည့် ပညာရှင်များ ﷺ ခေတ်ကာလ။ ဟိဂ်ျရီ (၁၀၀) ခုနှစ်မှ ဟိဂ်ျရီ (၃၅၀) ခုနှစ်အထိ နှစ်ပေါင်း (၂၅၀)။

ဤခေတ်တွင် ဟဒီးဆ်တော်များကို မှတ်တမ်းတင်ခြင်းနှင့် အတူ အမိန့်ပညတ်ချက်များကို ကျယ်ပြန့်စွာစနစ်တကျ ထုတ်ဖော်တင်ပြခြင်းများ ရေးသားပြုစုခြင်းများပြုလုပ်ခဲ့သည်။ လူမှုဘဝကဏ္ဍအသီးသီးအတွက် လိုအပ်သော အမိန့်ပညတ်ချက်များကို စနစ်တကျ အခန်းကဏ္ဍများခွဲ၍ ရေးသားပြုစုထားသော စာပေကျမ်းဂန်များ ပေါ်ပေါက်လာခဲ့သည်။ ယနေ့မွတ်စ်လင်မ်အများ လိုက်နာကျင့်သုံးနေသော မဇ်ဟဗ်ကြီးများ၏ အေမာမ်များသည်လည်း ဤခေတ်တွင် ပေါ်ပေါက်လာခဲ့ခြင်းဖြစ်သည်။

ဟဒီးဆ်တော်များကို ရေးသားမှတ်တမ်းတင်ခြင်းသည်လည်း ဤခေတ်တွင် ဖြစ်ပေါ်လာခဲ့ခြင်းဖြစ်သည်။ ထို့အတူ ဤခေတ်ကာလတွင် အုစူလွလ်ဖိက်ဟ် ပညာရပ်ကို စနစ်တကျ စာအုပ်စာပေများနှင့် ရေးသားပြုစုခြင်းပြီးမြောက်ခဲ့သည်။

## ④ စတုတ္ထခေတ်

မုဂ်ျသဟီးဒ်အဆင့်ရှိသောပညာရှင်တို့၏ လမ်းစဉ်များကို နောက်လိုက်မှုပြုသော အချိန်ကာလ။ ဟိဂ်ျရီ (၄၀၀) ခုနှစ်ဝန်းကျင်မှ လက်ရှိခေတ်ကာလအထိ။

တတိခေတ်တွင် ဖြစ်ပေါ်တိုးတက်ခဲ့သော အမိန့်ပညတ်ချက်များကို လိုက်နာကျင့်သုံးသောခေတ်ဖြစ်သည်။ ထင်ရှားသည့် မဇ်ဟဗ်လမ်းစဉ်ကြီးများ ပေါ်ပေါက်လာခဲ့သည်။ ထိုမဇ်ဟဗ်များကို လက်ခံကျင့်သုံးသော ပညာရှင်များက မဇ်ဟဗ်တွင်လာရှိထားသော အမိန့်ပညတ်ချက်များကို ပြန်လည်ပို့ချခြင်း၊ အသစ်ဖြစ်ပေါ်လာသော ကိစ္စရပ်များအတွက် အမိန့်ပညတ်ချက်များကို မဇ်ဟဗ်၏ အမိန့်ပြဋ္ဌာန်းသည့်ဥပဒေများကိုအခြေခံ၍ အမိန့်ပြဋ္ဌာန်းခြင်းများပြုလုပ်ခဲ့ကြသည်။



အခန်း ⑥

**မြန်မာ့မြေမှ** ဖေကာဟ်ပညာရှင်များ

**(၁) စာဆိုတော်ဦးနု**

**(၂) ဗဒုံမင်းလက်ထက် သာသနာပိုင်သခင်ကြီး**

**(၃) မောင်လာနာ အဗ်ဒွလ်ဟိုင်ယ် ကဖ်လေသဝီ**

**(၄) မောင်လာနာဟာရှင်မ် (ဆရာကြီးခွာ)**

**(၅) မောင်လာနာဗရှီးရ်အဟ်မဒ် (ဆရာကြီးပုံ)**

**(၆) မောင်လာနာဟာရှုးန် (ဆရာကြီးလှ)**

**(၇) မောင်လာနာဂိုလာမ်အလီရှားဟ် (စစ်တန်းမော်လဝီကြီး)**

**(၈) မွဖ်သီချုပ်ကြီး မဟ်မူးဒ်ဒါဝူးဒ်ယူစွဖ်**

**(၉) မောင်လာနာ အဗ္ဗဒွလ်ဟကီးမ် (ပျော်ဘွယ်)**

**(၁၀) မောင်လာနာယူနွတ်စ် ဆွာ့အ်**

**(၁၁) မောင်လာနာ မွဖ်သီကာရီ မုဟမ္မဒ်ယူစွဖ် (အဆ်အဒီ)**

**(၁၂) မောင်လာနာမွဖ်သီရှမ်ဆွတ်ဒိုဟာ**

## အခန်း (၆)

## **မြန်မာ့မြေမှ** ဖေကာဟ်ပညာရှင်များ

### 1 စာဆိုတော် ဦးနု

စာဆိုတော်ဦးနုသည် နောင်တော်ကြီးမင်းလက်ထက် (၁၁၂၄) ခု ဝါဆို လပြည့်ကျော် (၁၂)ရက်(၁၇၊ဇူလိုင်၊ ၁၇၆၂)စနေနေ့တွင်ဖွားမြင်သည်။ ဦးနုသည် ရွှေဘိုဇာတိဖြစ်သည်။ ငယ်မည်မှာမောင်နုဖြစ်ပြီး အရဗီအမည်မှာ မုဟမ္မဒ်ကာစင်မ် ဖြစ်သည်။ မိဘများသည်အင်းဝတောင်ဘလူရပ်နေ ရှိုက်ခ်ဒါဝူးဒ်နှင့် ဒေါ်ငြိမ်းတို့ဖြစ်သည်။

ဦးနုသည် မြန်မာ၊ ပါဠိ၊ သက္ကတ၊ အရဗီ၊ ဖာရစီ၊ အူရဒူ၊ ဟိန္ဒူစတန်နီ၊ ဒက္ခနီ ဘာသာစကားများကို တက်ကျွမ်းသည်။ ဦးနုသည် အရဗီမြန်မာဘာသာပြန်လုပ်ငန်းကို စတင်ခဲ့သူဖြစ်သည်။ ဦးနုကို ဗဒုံမင်းတရားကြီးက စာဆိုပညာရှိအဖြစ် မြှောက်စားသည်။ ဘုရင့်အဝယ်တော်တာဝန်များလည်း ပေးအပ်သည်။ ဦးနုသည် စာဆိုတော်ဦးနု၊ ဆရာကြီးဦးနုဟု ထင်ရှားသည်။ သာသနာ့ရှေ့ဆောင်အေမာမ်ကြီးဖြစ်၍ သခင်ကြီးဟုလည်း ခေါ်ကြသည်။

ဦးနုသည် ရခိုင်နှင့် ဘင်္ဂလားသို့ ကုန်းလမ်းရေလမ်း ခရီးအသွယ်သွယ်ဖြင့် ကုန်ရောင်းသွားခဲ့သည်။ ဗဒုံမင်း၏တာဝန်ပေးချက်အရ အိန္ဒိယသို့သွား၍ လောကီလောကုတ္တရာကျမ်းများ၊ ဆေးပညာကျမ်းများ စသည်တို့ကို ရှာဖွေစုဆောင်းခဲ့သည်။

ဦးနုသည် ကျမ်းပေါင်း၆၀ ကျော်ပြုစုခဲ့သည်။ ထိုကျမ်းများအနက် ဖေကာဟ်ပညာရပ်နှင့်သက်ဆိုင်သော ကျမ်းများမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ဆယ့်တစ်ခန်းကျမ်း
(၂) သုံးခန်းကျမ်း
(၃) ခြောက်ခန်းကျမ်း
(၄) စေရာဂျေရှရ်အီး ၃၅ ခန်းကျမ်း

## 2 ဗဒုံမင်းလက်ထက် သာသနာပိုင်သခင်ကြီး

ဆရာကြီး၏ငယ်အမည်မှာ မုဟမ္မဒ်ရှရိဖ်ဖြစ်သည်။ တမန်တော်မြတ် ﷺ ၏ မြေးတော် ဟုစိုင်းန် ؓ ၏အနွယ်တော်ဖြစ်၍ ဟုစိုင်နီဟူသော မျိုးရိုးအမည်ကိုတွဲသည်။ ဘွဲ့အမည်မှာ အာဗိဒ်ရှားဟ်ဖြစ်သည်။ ထို့ကြောင့် အာဗိဒ်ရှားဟ်သခင်ကြီးဟု အမည်ကျော်ကြားသည်။

ခရစ်နှစ် (၁၇၇၆) ခုနှစ်တွင် ဖွားမြင်သည်။ ဥပဇ္ဈာယ်ဆရာ စိုင်ယဒ်မုဟမ္မဒ် ယူစွဖ်ရှုဟာနီသခင်ကြီးထံ ဗိုင်အသ်ခံယူသည်။ ဆရာကြီးထံမှပင် လောကီ၊လောကုတ္တရာပညာရပ်များကို ဆည်းပူးသင်ယူပြီး ဆရာကြီး၏ ခလီဖာကိုယ်စားလှယ်အဖြစ်လွှဲအပ်ခြင်းခံရသည်။ ထို့နောက် ခွာဂျာမုအီနွတ်ဒီးန်ကျိရှ်သီသခင်ကြီးထံတွင် လမ်းညွှန်မှုများခံယူပြီး ပညာသင်ကြားခဲ့သည်။

အသက် (၁၉) နှစ်အရွယ်တွင် အမရပူရမြို့တော်သို့ ကြွရောက်ခဲ့သည်။ ထိုစဉ်က မြန်မာနိုင်ငံတွင် ဗဒုံမင်းထီးနန်းစိုးစံလျက်ရှိသည်။ အစ္စလာမ်သာသနာနှင့် ပတ်သတ်၍ ဗဒုံမင်း၏ မေးမြန်းစူးစမ်းချက်များကို အာဗစ်ရှားဟ်သခင်ကြီးက သေချာစွာ ဖြေကြားပေးနိုင်ခဲ့သည်။ ဆရာကြီး၏ပညာအရည်အချင်းကို စိတ်ချယုံကြည်သောကြောင့် အစ္စလာမ်သာသနာရေးဆိုင်ရာ သာသနာပိုင်အဖြစ်ခန့်အပ်ခဲ့သည်။ အစ္စလာမ်ဘာသာဝင်များဖြစ်ပွားခဲ့သည့် တရားအမှုအခင်းများကို အစ္စလာမ်ဘာသာရေးထုံးတမ်းအရသာ စစ်ဆေးစေခဲ့သည်။ မွတ်စ်လင်မ်တို့အဖို့ အာဗစ်ရှားဟ်သခင်ကြီးသည် တရားသူကြီးဖြစ်ခဲ့သည်။

နှစ်ပေါင်း (၂၀) တိတိ အစ္စလာမ်သာသနာပိုင်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည်။ ကျမ်းပေါင်း (၃၀) ကျော် ရေးသားပြုစုခဲ့သည်။ သက်တော် (၃၉) နှစ်အရွယ်တွင် အမရပူရမြို့တော်၌ အလ္လာဟ်အရှင်မြတ်အမိန့်တော်ခံယူခဲ့သည်။





## 3 မောင်လာနာ အဗ်ဒွလ်ဟိုင်ယ် ကဗ်လေသဝီ

ဆရာကြီးကို (၁၈၆၅) ခုနှစ်၌ အိန္ဒိယနိုင်ငံ စူရသ်မြို့နှင့် ဆယ်မိုင်အကွာရှိ ကဗ်လေသာရွာတွင် မွေးဖွားခဲ့သည်။ ဆရာကြီးသည် ကျောင်းတစ်ကျောင်းတွင် နေထိုင်ပြီး ပညာကို အပြီးအစီးသင်ယူခဲ့သူမဟုတ်ဘဲ အမြို့မြို့အနယ်နယ်ရှိ ဆရာကောင်းတစ်ဦးစီထံ ချဉ်းကပ်သင်ယူခဲ့သူဖြစ်သည်။ ထို့နောက် ဆရာကြီးသည် ရန်ဒေးမြို့ရှိ မဒ်ရဆာမုဟမ္မဒီယာကျောင်းတွင် ပညာပို့ချနေခဲ့သည်။ ထိုအချိန်တွင် မော်လမြိုင်မြို့မှပုဂ္ဂိုလ်များက မိမိတို့၏ ဂျာမေ့အ်ဗလီတွင် အေမာမ်အဖြစ် ဆောင်ရွက်ပေးရန်ကမ်းလှမ်းလာခဲ့သည်။ ဆရာကြီးက ထိုကမ်းလှမ်းချက်ကို လက်ခံပြီး မော်လမြိုင်သို့ထွက်ခွာလာခဲ့သည်။ ဆရာကြီးသည် မော်လမြိုင်တွင် ဆယ်နှစ်ကြာ နေထိုင်ခဲ့သည်။ ထိုဆယ်နှစ်အတွင်း သာသနာရေးအတွက် အလွန်အကျိုးဖြစ်ထွန်းသော ကျမ်းစာကြီးငယ်အများအပြား ရေးသားပြီးစီးခဲ့သည်။

ထို့နောက်ရန်ကုန်မြို့စူရ်သီဗလီကြီး၏ အေမာမ်အဖြစ် (၉) နှစ်ကြာ တာဝန်ထမ်းဆောင်ခဲ့သည်။ ထိုအတောအတွင်း နေ့ရောညပါ သာသနာ့အကျိုးပြု လုပ်ငန်းများဆောင်ရွက်ခဲ့သည်။ စာပေအများအပြား ရေးသားပြုစုခဲ့သည်။ ဆရာကြီး ရေးသားပြုစုခဲ့သော ခွသ္သဗာစာအုပ်ကို ဗလီရှေ့ဆောင်ဆရာများသည် ယနေ့တိုင် သောကြာနေ့များတွင် ဖတ်ရွတ်လျက်ရှိဆဲဖြစ်သည်။ အရဗီဘာသာဖြင့် ရေးသားပြုစုခဲ့သော အလ်ဗစ္စာအီရ်ကျမ်းသည် အိန္ဒိယနိုင်ငံအထိကျော်ကြားခဲ့သည်။ ဟဂ်ျခရီးစဉ်သွားရင်း ဆရာကြီးသည် ခြောက်လတိုင်တိုင် မဒီနာမြို့ရှိ မက်စ်ဂျေဒေ နဗဝီတွင် ပညာသင်ကြားပို့ချခဲ့ဖူးသည်။

ဆရာကြီးသည် (၁၉၁၃) ခုနှစ် ဂျွန်လ (၁၆) ရက်နေ့တွင် ကွယ်လွန်ခဲ့သည်။




## 4 မောင်လာနာ ဟာရှင်မ် ( ဆရာကြီးဦးခွာ )

ဆရာကြီးကို (၁၈၈၇) ခုနှစ်တွင် မန္တလေးမြို့၌ ဖွားမြင်ခဲ့သည်။ ဖခင်မှာ ဦးလူးဖြစ်ပြီး မိခင်မှာ ဒေါ်ဖွာတီဖြစ်သည်။ မိဘများမှာ မြန်မာနိုင်ငံအထက်ပိုင်းရှိ ဆားကုန်းကျေးရွာမှ ၃၇၀၀ အနွယ်ဝင်များဖြစ်ကြသည်။ ဆရာကြီးသည် အသက် (၇) နှစ်အရွယ်တွင် စစ်ကိုင်းမြို့ရှိ ဗလီထိုင်ဆရာကြီး ဦးဖြူထံတွင် အစ္စလာမ်ဘာသာရေးအခြေခံပညာနှင့် မြန်မာစာကို သင်ယူခဲ့သည်။ အသက် (၁၇) နှစ်အရွယ်တွင် မန္တလေးမြို့ရှိ ကာဘွလ်မောင်လာနာကြီးထံတွင် သာသနာ့ပညာရပ်များကို သင်ယူဆည်းပူးခဲ့သည်။

အသက်(၂၇)နှစ်တွင် ဆားကုန်းကျေးရွာ၌ သအ်လီမွလ်အစ္စလာမ် သာသနာ့ပညာသင်ကျောင်းကို တည်ထောင်ခဲ့သည်။ ဘုတ္တောရွာ သဗ္ဗလီဂီယာကျောင်း၏ ကျောင်းအုပ်အဖြစ်လည်း တာဝန်ထမ်းဆောင်ခဲ့သည်။ (၁၉၃၇) ခုနှစ်တွင် ဆားကုန်းကျေးရွာ၌ မြန်မာအရဗီသိပ္ပံကျောင်းကြီးကို ဦးစီးဆောက်လုပ်နိုင်ခဲ့သည်။

မြေထူးနယ်ရှိလူထု၏ အထူးကြည်ညိုမှုကို ရရှိခဲ့သည်။ ထို့ကြောင့် အမှုအခင်းအရေးကိစ္စများတွင် ဆရာကြီး၏ အဆုံးအဖြတ်ကို လာရောက်ခံယူခဲ့ကြသည်။ ဆရာကြီးကလည်း အဂတိကင်းကင်းဖြင့် တရားမျှတစွာ ဆုံးဖြတ်ပေးလေ့ရှိသည်။ ထို့ကြောင့် နယ်လူထု၏ နှုတ်ဖျားတွင် ဆရာကြီးဦးခွာ၏ခုံရုံးဟူသော အခေါ်အဝေါ်တစ်ရပ် တွင်ကျယ်လာခဲ့သည်။

ဆရာကြီးဦးခွာသည် ဆရာကြီးဦးပုံနှင့်အတူ ကျမ်းတချို့ကို ရေးသား ပြုစုခဲ့ပြီး ဖေကာဟ်နှင့် ပတ်သတ်သော ကျမ်းများမှာ …

(က) နမားဇ်ခန်းကျမ်း (ခ) ကူဒူရီကျမ်းဘာသာပြန်

(ဂ) သအ်လီမွန်နေစာကျမ်းတို့ဖြစ်သည်။

ဆရာကြီးသည် (၁၉၅၆) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။




## 5 မောင်လာနာ ဗရှီးရ်အဟ်မဒ် ( ဆရာကြီးပုံ )

ဆရာကြီးကို ဖခင်သွေးသောက်ကြီးဦးယိမ်းနှင့် မိခင်ဒေါ်ပိုးဥတို့မှ (၁၈၉၅) ခုနှစ်တွင် ဖွားမြင်ခဲ့သည်။ ဆရာကြီး၏ ဇာတိမှာ ဘုတ္တောရွာဖြစ်သည်။ အသက် (၇) နှစ်အရွယ်၌ မောင်လာနာစအီးဒ်ထံတွင် သာသနာ့အခြေခံပညာများကို စတင်သင်ယူခဲ့သည်။ ထို့နောက် မောင်လာနာဟာစံရှားဟ်ထံတွင် သုံးနှစ်တိတိ အရဗီ၊ အူရ်ဒူနှင့် ဖာရစီစာပေတို့ကို သင်ယူခဲ့သည်။ အစ္စလာမ့်ရေးရာ အဆင့်မြင့်ပညာရပ်များကို မန္တလေးမြို့ရှိ မုဟမ္မဒီယာကျောင်း၌ မောင်လာနာဂိုလာမ်အလီရှားဟ် (စစ်တန်း မော်လဝီကြီး) ထံတွင် သင်ယူခဲ့သည်။

ဆရာကြီးသည် ဘုတ္တောရွာသို့ပြန်ရောက်သောအခါ သဗ္ဗလီဂီယာသာသနာ့ ပညာသင်ကျောင်းကို တည်ထောင်ခဲ့သည်။ ထို့နောက် မြန်မာအရဗီသိပ္ပံကျောင်းကြီး၏ ကျောင်းအုပ်အဖြစ် တာဝန်ထမ်းဆောင်ခဲ့သည်။ ဆရာကြီးသည် ကန့်ဘလူနယ်ရှိ မွတ်စ်လင်မ်တို့၏ သာသနာရေး၊ လူမှုရေးပြဿနာများကို ဆရာကြီးဦးခွာနှင့် လက်တွဲ၍ ဖြေရှင်းဆောင်ရွက်ပေးခဲ့သည်။ ဆရာကြီးဦးခွာ ကွယ်လွန်ပြီးနောက် တစ်ကိုယ်တည်းခေါင်းခံ၍ အမှုကိစ္စများကို ဖြေရှင်းပေးခဲ့ရပြီး ဆရာကြီးပုံ၏ခုံရုံး ဟူ၍ထင်ရှားခဲ့သည်။

အသွားအလာခက်ခဲသောကြောင့် ဆာကုန်းရွာရှိ မြန်မာအရဗီသိပ္ပံကျောင်းကြီးကို ကန့်ဘလူမြို့သို့ပြောင်းရွှေ့ဖွင့်လှစ်ခဲ့သည်။ ဆရာကြီးဦးခွာနှင့်အတူ ကျမ်းအချို့ကို ရေးသားပြုစုခဲ့ပြီး ထိုကျမ်းများအနက် ဖေကာဟ်နှင့်သက်ဆိုင်သော ကျမ်းများမှာ …

(၁) နမားဇ်ခန်းကျမ်း (၂) ကူဒူရီဘာသာပြန်ကျမ်း

(၃) သအ်လီမွန်နေစာအ်ကျမ်းတို့ဖြစ်သည်။

ဆရာကြီးသည် (၁၉၉၂) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။




## 6 မောင်လာနာ ဟာရှုန် ( ဆရာကြီးလှ )

ဆရာကြီးကို ဖခင်ဦးစံကြူ မိခင်ဒေါ်ပဲရုံတို့မှ ခရစ်နှစ် (၁၉၀၈) ခုနှစ် တွင် ဖွားမြင်ခဲ့သည်။ ဇာတိမှာ ဆားကုန်းရွာဖြစ်သည်။ ဆရာကြီးခွာဖွင့်လှစ်ခဲ့သော ဆားကုန်းရွာရှိ အရဗီကျောင်းတွင် ပညာစတင်သင်ယူဆည်းပူးခဲ့သည်။ ထို့နောက် ဆရာကြီးခွာ၏ လမ်းညွှန်မှုဖြင့် အိန္ဒိယနိုင်ငံဂူဂျာရာ့်ပြည်နယ်ရှိ ဂျာမေအဟ် အစ္စလာမ်မီယာတက္ကသိုလ်မှ ဘွဲ့ရခဲ့သည်။ မြန်မာနိုင်ငံသို့ပြန်ရောက်ပြီးနောက် ဆရာကြီးခွာ၏တစ်ချိန်ကအလှူရှင်တို့အား ပေးခဲ့သောကတိကို ဖြည့်ဆည်းသော အားဖြင့်ဆရာကြီးသည်ပထမကသာ၊ထို့နောက်သံတွဲမြို့သို့သွားရောက်၍ စုစုပေါင်း တစ်နှစ်တာမျှသာသနာ့တာဝန်များကို ထမ်းရွက်ပေးခဲ့သည်။ ထို့နောက် ဆရာကြီး သည် မြန်မာအရဗီသိပ္ပံကျောင်းတော်ကို စတင်ဖွင့်လှစ်သည်မှ ကွယ်လွန် သည် အထိ ကျောင်းတော်ကြီးတွင် စာချပုဂ္ဂိုလ်အဖြစ် တာဝန်ထမ်းရွက်သွားခဲ့ပါ သည်။

(၆၂) နှစ်တိုင်တိုင် သာသနာ့စာပေများကို ပို့ချပေးခဲ့သည်။ ထိုသို့ ရှိုင်ခွလ် ဟဒီးဆ်အဖြစ် တာဝန်ထမ်းဆောင်လာခဲ့သော ဆရာကြီးလှသည် ကျောင်းအုပ်ကြီး ဆရာကြီးပုံ ကွယ်လွန်သောအခါ ကျောင်းအုပ်ကြီးတာဝန်ကိုပါ ဆက်လက်ထမ်း ရွက်ခဲ့သည်။ မွဖ်သီချုပ်ကြီးမဟ်မူးဒ်ဒါဝူးဒ်ယူစွဖ်က ဟဒီးဆ်ပညာရပ်၌ မရှင်းလင်းမှု တစ်စုံတစ်ရာရှိသော် ဆရာကြီးလှထံသွားရောက်မေးမြန်းကြပါဟု ပြောရလောက် သည်အထိ ပညာရည်မြင့်မားသော ပညာရှင်တစ်ဦးဖြစ်သည်။ လူအများ၏ ယုံကြည် ကိုးစားမှုကို ရရှိထားသောကြောင့် ပြဿနာအမှုအခင်းများတွင် ဆရာကြီး၏ အဆုံး အဖြတ်ကို လာရောက်ခံယူကြသည်။

ဆရာကြီးသည် (၁၉၉၈) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

## 7 မောင်လာနာဂိုလာမ်အလီရှားဟ်( စစ်တန်းမော်လဝီကြီး )

မောင်လာနာဂိုလာမ်အလီရှားဟ်သည် အိန္ဒိယနိုင်ငံ ရာဟ်ပူးရ်မြို့သား ဖြစ်သည်။ ဇာတိမြို့အနီး ဘရွတ်ရွာရှိမွဖ်သီအဟ်မဒ်မီယားန် ထံတွင် အူရ်ဒူ၊ အရဗီ၊ ဖာရစီအခြေခံပညာရပ်များကို ဆည်းပူးခဲ့သည်။ ရှားဟ်အစ္စဟာက်ထံတွင် သာသနာ့ ပညာကို အလယ်တန်းအောင်သည်အထိ ဆည်းပူးခဲ့သည်။ ထို့နောက် ဗြိတိသျှ ပန်ချာပီစစ်တပ်တွင် ဓမ္မဆရာအဖြစ်တာဝန်ယူဆောင်ရွက်ခဲ့သည်။ ပန်ချာပီစစ်တပ် မြန်မာပြည်သို့ပြောင်းရွှေ့လာရာ ဆရာကြီးလည်းလိုက်ပါလာခဲ့သည်။ မန္တလေးမြို့ မျက်ပါးရပ်တပ်စခန်းရှိ ဗလီတွင် ရှေ့ဆောင်ဆရာအဖြစ် ဆောင်ရွက်ခဲ့သည်။ စစ်တန်းလျားတွင်နေသဖြင့် စစ်တန်းမော်လဝီကြီးဟုခေါ်ကြသည်။ ထို့နောက် စစ်တပ်မှ ဓမ္မဆရာအဖြစ်နုတ်ထွက်ပြီး မန္တလေးမြို့၂၉လမ်းရှိ အိုးတော်ဗလီတွင် ရှေ့ ဆောင်ဆရာအဖြစ် တာဝန်ယူခဲ့သည်။

ရှေ့ဆောင်ဆရာအဖြစ်ဆောင်ရွက်ရင်း အဆင့်မြင့်ပညာရပ်များကို ဆက် လက်သင်ယူဆည်းပူးလိုသောကြောင့် အိန္ဒိယနိုင်ငံသို့ထွက်ခွာလာခဲ့သည်။ နာမည် ကျော်ပုဂ္ဂိုလ်တစ်ဦးဖြစ်သည့် မောင်လာနာရှုရှီးဒ်အဟ်မဒ်ဂန်ဂိုဟီ သခင်ကြီးထံ ပညာဆည်းပူးခဲ့သည်။ သင်ရိုးကုန်ပြီးမြောက်၍ မြန်မာနိုင်ငံသို့ ပြန်ရောက်လာ သောအခါ ဆရာ့နည်းတူ ဖိက်ဟ်ပညာရပ်တွင် မင်းမူနိုင်ခဲ့သည်။ မုဟာမ္မဒီယာ ကျောင်းကိုဖွင့်လှစ်ပြီး ပညာသင်ကြားမှုစတင်ခဲ့သည်။ ပညာသင်ကြားခြင်းနှင့် ဖသ်ဝါဓမ္မသတ်ရေးရာဖြေကြားခြင်းကိစ္စများကို အားသွန်ခွန်စိုက် ဆောင်ရွက်ခဲ့ သည်။ ဓမ္မသတ်များကို အထောက်အထားအကိုးအကားခိုင်မာစွာ ဖြေကြားခြင်း ကြောင့် ပညာရှင်အများက ဆရာကြီးထံ အဆုံးအဖြတ်ခံယူခဲ့ကြရသည်။

ဆရာကြီးတည်ထောင်ခဲ့သော မိုဟမ္မဒီယာကျောင်းထွက်ပညာရှင်များတွင် မောင်လာနာရှဖီးအ်၊ မောင်လာနာဦးဘဒင်၊ ဆရာကြီးပုံ၊ မောင်လာနာဦးလှဒင် (ယင်းတော်)၊ မောင်လာနာဦးဖိုးညို (ယင်းတော်) စသည့်နာမည်ကျော်ပညာရှင်များ

ပါဝင်သည်။ ဆရာကြီးသည် ၁၉၃၆ ခုနှစ်၊ ဒီဇင်ဘာ ၁၂ ရက်နေ့တွင် ကွယ်လွန်ခဲ့သည်။

## 8 မွဖ်သီချုပ်ကြီး မဟ်မူးဒ် ဒါဝူးဒ်ယူစွဖ်

မွဖ်သီချုပ်ကြီးကို(၁၉၁၆)ခုနှစ်တွင် ရန်ကုန်မြို့ကုန်ဈေးတန်းလမ်း၌ဖွားမြင်ခဲ့သည်။ ဖခင်မှာ ဟာဂျီဒါဝူးဒ်ဖြစ်ပြီး မိခင်မှာဖွာသွေမာဘီဖြစ်သည်။ အခြေခံပညာအတန်းကို(၁၉၂၁)ခုနှစ်တွင်စတင်သင်ယူခဲ့သည်။အိန္ဒိယနိုင်ငံ မဇ္ဇာဟေရွလ်အုလူးမ်ကျောင်းတွင် ပညာသင်ယူဆည်းပူးခဲ့သည်။ မွဖ်သီစအီးဒ်အဟ်မဒ်ထံတွင် ဖသ်ဝါလေ့ကျင့်ခန်းများ စနစ်တကျပြုခဲ့သည်။

(၁၉၃၇) ခုနှစ်တွင် ရန်ကုန်မြို့ရှိ ဒါရွလ်အုလူးမ်ကျောင်း၏ အုပ်ချုပ်ရေးမှူးအဖြစ် တာဝန်ထမ်းဆောင်ရင်း ပညာသင်ကြားပို့ချခဲ့သည်။ (၁၉၃၈) ခုနှစ်တွင် မွဖ်သီချုပ်အဖြစ်တာဝန်ထမ်းဆောင်ခဲ့သည်။ (၁၉၆၄) ခုနှစ်တွင် မွဖ်သီချုပ်ကြီးကို အိုလမာအဖွဲ့ချုပ်၏ ဥက္ကဋ္ဌအဖြစ် ခန့်အပ်ခဲ့သည်။ နိုင်ငံရေးအပြောင်းအလဲ ကာလတွင် အဘက်ဘက်မှယိုယွင်းကျဆင်းနေသော အခြေအနေများအကြားမှ အိုလမာအဖွဲ့ချုပ်ကို ဆက်လက်တည်တံ့အောင် ကျားကုတ်ကျားခဲ ထိန်းသိမ်းပေးခဲ့သည်။ (၁၉၇၃) ခုနှစ်တွင် အိုလမာအဖွဲ့ချုပ်၏ ရာသက်ပန် ဥက္ကဋ္ဌအဖြစ် ရွေးချယ်တင်မြှောက်ခြင်းခံခဲ့ရသည်။

မွဖ်သီချုပ်ကြီးသည် အိုလမာအဖွဲ့ချုပ်၏ ဥက္ကဋ္ဌအဖြစ် များစွာသော မွတ်စ်လင်မ်ရေးရာပြဿနာများကို ဦးဆောင်ဖြေရှင်းပေးခဲ့သည်။ ဖသ်ဝါမွေ့သတ်ရေးရာ အကွဲအလွဲများကို ညှိနှိုင်းဆုံးဖြတ်ချက်ချခြင်းများပြုပေးခဲ့သည်။ ရာဘိသွာ ကမ္ဘာ့မွတ်စ်လင်မ်ရေးရာအဖွဲ့ချုပ်၏ အဖွဲ့ဝင်တစ်ဦးလည်းဖြစ်ခဲ့သည်။

မွဖ်သီချုပ်ကြီးသည် (၂၀၀၃)ခုနှစ်၊ဧပြီလ(၈)ရက်နေ့တွင် ကွယ်လွန်ခဲ့သည်။




## 9 မောင်လာနာ အဗ်ဒွလ်ဟာကီးမ်

ဆရာကြီးကို အဖဟာဂျီယူနွတ်စ်နှင့် အမိဒေါ်ချစ်တို့မှ ပျော်ဘွယ်မြို့နယ် အုန်းပင်ခြံရွာ၌ ၁၉၁၅ခုနှစ်တွင် ဖွားမြင်ခဲ့သည်။ (၁၉၂၉) ခုနှစ်တွင် ရန်ကုန်မြို့ရှိ မိုအီနွလ်အစ္စလာမ်အရဗီကျောင်းသို့ သွားရောက်၍ ပညာသင်ယူခဲ့သည်။ (၁၉၃၅) ခုနှစ်တွင် အိန္ဒိယနိုင်ငံရှိ မဇ္ဇာဟေရွလ်အိုလူးမ်ကျောင်းတော်တွင် ဆက်လက်ပညာသင်ယူခဲ့သည်။ (၁၉၄၁) ခုနှစ်တွင် မြန်မာနိုင်ငံသို့ပြန်လည်ရောက်ရှိခဲ့သည်။

(၁၉၄၁ – ၁၉၄၂) ခုနှစ်တွင် သာစည်မြို့နယ်၊ ဇီးပင်ပေါက်ဗလီကြီးတွင် ရှေ့ဆောင်အေမာမ်အဖြစ်တာဝန်ထမ်းဆောင်ခဲ့သည်။ (၁၉၄၄) မှ (၁၉၄၉) ခုနှစ်အထိ မန္တလေးမြို့ မုဟမ္မဒီယာကျောင်းတွင် ပညာသင်ကြားပို့ချခဲ့သည်။ (၁၉၅၀) ခုနှစ်တွင်လက်ပံရွာရှိရွာလယ်ဗလီကြီးတွင်အေမာမ်အဖြစ်(၅)နှစ်ခန့်တာဝန်ထမ်းဆောင်ခဲ့သည်။ (၁၉၅၂) ခုနှစ်တွင် လက်ပံရွာကြီး၌ ခလီလီယာအရဗီအထက်တန်းကျောင်းကိုတည်ထောင်ခဲ့သည်။ (၁၉၆၈) ခုနှစ်မှစ၍ ပျော်ဘွယ်မြို့ရှိ မဇ္ဇာဟေရွလ်အိုလူးမ်ကျောင်းတော်တွင် (၁၀) ခန့်ပညာသင်ကြားပို့ချခဲ့သည်။ (၁၉၇၉) ခုနှစ်မှ (၁၉၉၂) ခုနှစ်အထိ ယင်းတော်ရွာ မဒီနသွလ်အိုလူးမ် အရဗီအထက်တန်းကျောင်းတွင် ကျောင်းအုပ်အဖြစ်တာဝန်ယူပြီး ပညာသင်ကြားပို့ချခဲ့သည်။ ၁၉၉၃ခုနှစ်မှစ၍ ကွယ်လွန်သည်အထိ မိတ္ထီလာမြို့ အဇီဇီယာအရဗီအထက်တန်းကျောင်း တွင် ကျောင်းအုပ်အဖြစ်တာဝန်ထမ်းဆောင်ခဲ့သည်။

ဆရာကြီးသည် အိုလမာအဖွဲ့ချုပ်၏ ဒု ဥက္ကဋ္ဌအဖြစ်လည်းကောင်း၊ အိုလမာအဖွဲ့(မန္တလေးတိုင်း)၏ ဓမ္မသတ်မှူးအဖြစ်လည်းကောင်း၊ အိုလမာအဖွဲ့ (ပျော်ဘွယ်မြို့နယ်) ၏ ဓမ္မသတ်မှူးအဖြစ်လည်းကောင်း၊ အစ္စလာမ့်အခြေခံပညာရေး ဒီနီယသ်ဗဟိုအဖွဲ့၏ နာယက အဖြစ်လည်းကောင်း တာဝန်အသီးသီး ထမ်းဆောင်ခဲ့သည်။

ဆရာကြီးသည် (၁၉– ၈– ၂၀၀၄) တွင် ကွယ်လွန်ခဲ့သည်။




ဆရာကြီးပြုစုခဲ့သော ဖေကာပညာရပ်ဆိုင်ရာ ကျမ်းများမှာ အောက်ပါအတိုင်းဖြစ်သည်။

(က) သုံးသွလာက်နှင့်လမ်းစဉ်မှန်

(ခ) အလ်ဘရာဟီးန္ဒလ်ကာသွေ့အာဟ် (အတိုးနှင့်ပတ်သတ်သောကျမ်း)

## 10 မောင်လာနာ ယူနွတ်စ် ဆွာ့အ် ( မဇ္ဇာဟေရီ )

ဆရာကြီးသည် ခရစ်နှစ် (၁၉၂၉) ခုနှစ်၊ ဧပြီလတွင် ယင်းတော်ရွာ၌ ဖွားမြင်ခဲ့သည်။ ဖခင်မှာ ဟာဂျီဦးသာမောင်ဖြစ်ပြီး မိခင်မှာ ဟာဂျီမဒေါ်ဘီဘီ ဖြစ်သည်။ ရှိုင်းခ်မုဟမ္မဒ်ဟာဒီခေါ် ဆရာကြီးဦးဟာဒီထံ၌ ကုန်အာန်ကျမ်းမြတ်နှင့် အုရ်ဒူအခြေခံစာအုပ်များကို သင်ယူခဲ့သည်။ ထို့နောက်ယင်းတော်ကျေးရွာရှိ မဒီနသွလ်အုလူးမ်းနှင့် မန္တလေးမြို့ရှိ မုဟမ္မဒီယာ အရဗီအထက်တန်းကျောင်းတို့တွင် မော်လဝီတန်းပြီးဆုံးသည်အထိ ပညာသင်ယူဆည်းပူးခဲ့သည်။

ထို့နောက် အိန္ဒိယနိုင်ငံရှိ မဇ္ဇာဟေရွလ် အုလူးမ်ကျောင်းတော်တွင် သုံးနှစ်တိတိပညာသင်ယူခဲ့သည်။ (၁၉၅၁) ခုနှစ်တွင် ဖသ်ဝါဓမ္မသတ်ရေးရာ မွဖ်သီ သင်တန်းတက်ရောက်သင်ယူသည်။ (၁၉၅၂) ခုနှစ်တွင် ဆော်ဒီအာရေဗျနိုင်ငံသို့ သွားရောက်၍ ပညာသင်ယူခဲ့သည်။

ဆရာကြီးသည် (၁၉၅၅) ခုနှစ်မှစ၍ အစ္စလာမ့်ပညာရေး ပို့ချဖြန့်ချိမှုလုပ်ငန်းနှင့် ဖသ်ဝါဓမ္မသတ်ရေးရာကိစ္စရပ်များအတွက် ကြိုးပမ်းအားထုတ်ခဲ့သည်။ ဟဒီးဆ်တော်များတွင်လာရှိထားသော အချိန်အတွယ်တစ်ခုဖြစ်သည့် ဆွာ့အ်ခွက်များကို မြန်မာနိုင်ငံသုံးအလေးချိန်နှင့် တွက်ချက်ပြခဲ့ခြင်းကြောင့် မောင်လာနာ ယူနွတ်စ် ဆွာ့အ် ဟူ၍လူသိများခဲ့သည်။ မြန်မာဘာသာစကားအပြင် အရဗီဘာသာစကားဖြင့်ပါ ကျမ်းပေါင်းများစွာ ရေးသားပြုစုခဲ့သည်။ ထိုကျမ်းများအနက် ဖေကာဟ်ပညာရပ်ဆိုင်ရာကျမ်းများမှာ အောက်ပါအတိုင်းဖြစ်သည်။




(၁) အလ်ဟွစ်နွလ်ဟမီဒီယာကျမ်း (၂) ဟဂ်ျမှတ်တမ်း

(၃) မိဖ်သာဟွလ်ဂျန္နသ်ကျမ်း (၄) ဟုကူကွလ်အစ္စလာမ်ကျမ်

ဆရာကြီးသည် (၂၀၁၁) ခုနှစ်၊ဒီဇင်ဘာလ(၆)ရက်နေ့တွင် ကွယ်လွန်ခဲ့သည်။

## 11 မောင်လာနာ မွဖ်သီ ကာရီ မုဟာမ္မဒ် ယူစွဖ် (အဆ်အဒီ )

ဆရာကြီးကို (၁၉၄၀) ခုနှစ်တွင် ရန်ကုန်မြို့၌ ဖွားမြင်ခဲ့ပြီး ဖခင်အမည်မှာ ရှိုက်ခ်အဗ်ဗ္ဗလ္လာဟ်ဖြစ်သည်။ဘာသာရေးအခြေခံပညာကိုအမီးရ်ချုပ်ကြီးနှင့်မစ္စတာ အလီအဟ်မဒ်တို့ထံတွင် သင်ယူဆည်းပူးခဲ့သည်။ ထို့နောက် တာမွေဒါရွလ်အိုလူးမ် ကျောင်းတွင် အလယ်တန်းအဆင့်ထိပညာ သင်ယူဆည်းပူးခဲ့သည်။ (၁၉၅၇) တွင် အိန္ဒိယနိုင်ငံရှိ မဇ္ဇာဟေရွလ်အိုလူးမ်ကျောင်းတော်တွင် ၄ နှစ်ခန့် ပညာသင်ယူဆည်း ပူးခဲ့သည်။ နာမည်ကျော်ပညာရှင်တစ်ဦးဖြစ်သည့် မောင်လာနာ အဆ်အဒ္ဒလ္လာဟ်ကို အလုပ်အကျွေးပြုရင်း အနီးကပ်ပညာသင်ယူဆည်းပူးခဲ့သော အဆ်အဒီဟူသော ဘွဲ့ တပ်၍ ဆရာကြီးကို ခေါ်ဝေါ်ကြခြင်းဖြစ်သည်။

မြန်မာနိုင်ငံသို့ ပြန်လည်ရောက်ရှိပြီးနောက် ဒါရွလ်အိုလူးမ်ကျောင်းတော် တွင် ဆရာအဖြစ်ခန့်အပ်ခြင်းခံခဲ့ရသည်။ ဤကျောင်းတော်၌ (၁၉၇၈) ခုနှစ်အထိ ပညာသင်ကြားပို့ချပေးခဲ့သည်။ (၁၉၈၉) ခုနှစ်တွင် အဆ်အဒီယာကျောင်းတော်ကြီး ကို စတင်၍တည်ထောင်ခဲ့သည်။ ဆရာကြီးသည် ဤကျောင်းတော်၏ ဓမ္မသတ်ဌာန မှအများမွတ်စ်လင်မ်တို့အတွက် လိုအပ်သော ဓမ္မသတ်များကို ထုတ်ပြန်ပေးခဲ့သည်။ များစွာသော စာပေကျမ်းဂန်များကို ရေးသားပြုစုခဲ့သည်။

ဆရာကြီးရေးသားပြုစုခဲ့သော စာအုပ်များမှာ၂၀၀ကျော်ခန့်ရှိပြီး ဖေကာဟ် နှင့်ပတ်သတ်သော ကျမ်းများမှာ ...

(က) ဇကားသ်ဆိုင်ရာနည်းဥပဒေကျမ်း (ခ) ဆရာကြီးဖြေကြားခဲ့သောဖသ်ဝါများ ကို စုစည်းထားသော ဖသ်ဝါအဆ်အဒီယာကျမ်း တို့ဖြစ်သည်။

## 12 မောင်လာနာ မွဖ်သီ ရှမ်ဆွတ်ဒိုဟာ

ဆရာကြီးကို (၁၉၃၀) ခုနှစ်တွင် ရခိုင်ပြည်နယ် ကျောက်တော်ဒေသတွင် ဖွားမြင်ခဲ့သည်။ ဖခင်မှာ မောင်လာနာ ဗဒီအွရ်ရဟ်မားန်ဖြစ်ပြီး မိခင်မှာ နူရေအိုင်းန် ဖြစ်သည်။ (၁၉၅၆) ခုနှစ်တွင် ဒါရွလ်အူလူးမ်ကျောင်းတော်မှ မော်လဝီတန်း ပြီး မြောက်အောင်မြင်ခဲ့ပြီး အိန္ဒိယမဇွာဟေရွလ်အိုလူးမ်ကျောင်းတော်တွင် ပညာ ဆက်လက်သင်ယူခဲ့သည်။

ထို့နောက်ဒါရွလ်အိုလူးမ်ကျောင်းတော်တွင် ပညာသင်ကြားပို့ချပေးခဲ့သည်။ (၁၉၆၁) ခုနှစ်တွင် ဆူဖီယာကျောင်း၏ ကျောင်းအုပ်ဆရာကြီးအဖြစ် ခန့်အပ်ခြင်း ခံခဲ့ရသည်။ (၁၉၇၃) ခုနှစ်မှ (၂၀၁၈) ခုနှစ်အထိ ဆူဖီယာကျောင်း၏ ဟဒီးဆ် ပါမောက္ခချုပ်အဖြစ် ဗိုခါရီကျမ်းကို သင်ကြားပို့ချခဲ့သည်။ (၂၀၀၈) ခုနှစ်မှစ၍ အိုလမာအဖွဲ့ချုပ်၏ ဖမ္မသတ်မှူးအဖြစ်ခန့်အပ်ခံရပြီး များစွာသော ဖမ္မသတ်ရေးရာ အဆုံးအဖြတ်များ ပြုပေးခဲ့သည်။

ဆရာကြီးသည် များစွာသော အစ္စလာမ့်ရေးရာစာအုပ်စာပေများ ရေးသား ပြုစုခဲ့ပြီး ဖေကာဟ်နှင့်သက်ဆိုင်သော နာမည်ကျော်စာအုပ်များမှာ အောက်ပါအ တိုင်းဖြစ်သည်။

(၁) ကန်ဇွလ်မစာအိလ်ကျမ်း (၂) လပြဿနာလမ်းစဉ်မှန်ကျမ်း



## မှီငြမ်းကျမ်းများ

၁ مبادئ في علم أصول الفقه للأستاذ محمد أكرم الندوي

၂ آسان اصول فقہ لمولانا خالد سیف اللہ رحمانی

၃ علم أصول الفقه وخلاصة التشريع الإسلامي للدكتور عبد الوهاب خلاف

၄ မြန်မာနိုင်ငံအိုလမာအဖွဲ့ချုပ်သမိုင်း (မော်လဝီပသီကျော်ဦး)

၅ တိုင်းရင်းမွတ်စ်လင်မ်စာပြုစာဆိုပုဂ္ဂိုလ်ကျော်များ(ပါမောက္ခဒေါက်တာအောင်ဇော်)

၆ ဆူးကြားမှပွင့်သောနှင်းဆီများ (မောင်လာနာအိဗ်ရာဟီးမ် ဂျာမေအီ)

အလ်အဟ်ဆာန် အစွဲလာပ်စာပေ ကွန်ပြူတာစာစီစာရိုက်
AL-AHESARN နှင့် အတွင်းအပြင်အဆင်
အနောက်သာယာကုန်းရပ်ကွက်၊ မြစ်ငယ်မြို့။ ၀၉၄၈၀၀၂၁၃၇၂